# EQM Environmental Quality Management Co. Ltd.

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သစ္စာလမ်း၊ ကံဘဲ့

ရန်ကုန်မြို့

စာအမှတ် ၊ ၁၉/ ၂၀၁၅
ရက်စွဲ ၁ ၊အောက်တိုဘာလ ၊ ၂၀၁၅

အကြောင်းအရာ။ ။ LIuvia Limited မှ ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်း လုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုစီးပွားရေးဆိုင်ရာ စစ်ဆေးခြင်း(ESIA) နှင့်ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့် ခွဲမှုအစီစဉ် (EMP) များအတွက် EQM Co.,Ltd မှလုပ်ကိုင်ပြီးစီးပြီဖြစ်ပါကြောင်း တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ရုံး၏ ၁၁.၃.၂၀၁၅ ရက်စွဲပါ စာအမှတ် ၊ ၂/ ၂၂၀(ခ)(၆) (၁၅၄၂/ ၂၀၁၅)

အထက်ပါ အကြောင်းအရာနှင့်ပက်သက်၍ Environmental Quality Management (EQM Co., Ltd) သည် ဒဂုံမြို့ သစ် အရှေ့ ပိုင်း မြို့ နယ် စက်မှုမြို့ မြေတိုင်းရပ်ကွက် အမှတ် (၁၁၃)၊ မြေကွက်အမှတ် (၅၀၊ ၅၁၊ ၅၂) ရှိ မြေဧရိယာ (၂.၂၅ ဧက) ပေတွင် LIuvia limited မှ ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်း လုပ်ငန်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုစီးပွားရေးဆိုင်ရာ စစ်ဆေးခြင်း (ESIA) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲ မှု အစီအစဉ် (EMP) တို့ ကို ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးရုံး ၏ ရည်ညွှန်းချက်ပါစာ နှင့် အညီ လုပ်ဆောင်ပြီးစီး ပြီဖြစ်ပါ၍ အပြီးသတ် (Final Report) များအား ပေးပို့ ခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

(ဒေါက်တာဥမ္မာမေတင်လှိုင်)
Managing Director
Environmental Quality Management (EQM Co., Ltd)

No 233, Block 23, Sayee Pin lane, Thuwana, Thingungyun, Yangon, Myanmar
Ph: (951) 560291, (951) 561417, (951) 562182, (959) 5016606
E-mail: ohnmarmay@gmail.com, contact@eqmmyanmar.com

မိတ္တူကို-LIuvia Limited
-ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန
-ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်   ၂/၂၂၀(ခ)(၄)(၁၈၄၇/၂၀၁၅)
ရက်စွဲ   ၂၀၁၅ ခုနှစ်၊ မတ်လ 22 ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Liuvia Limited ၏ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ သဘောထားမှတ်ချက် တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၃ -၂ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န -၁၁၇ / ၂၀၁၅ ( ၁၄၄ )

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ ၊ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte.,Ltd မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Liuvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ် ၊ စက်မှုမြို့ ၊ မြေတိုင်းရပ်ကွက် အမှတ် ( ၁၁၃ )၊ မြေကွက်အမှတ် ( ၅၀ ) ရှိ မြေ ( ၂.၂၅၀ ဧက ) ( ၉၈,၀၀၀ စတုရန်းပေ ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် ၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၄၅) နှစ် ဖြစ်ကြောင်း၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍ တွက်ချက်ထားမှုများ၊ ကုန်ကြမ်းပစ္စည်းများ အနေဖြင့် ဂျုံစေ့ ( ၁၀၅,၆၀၀ ) တန်မှ ( ၆၆၀,၀၀၀ ) တန်၊ ထုတ်ပိုးပစ္စည်းအနေဖြင့် ( ၂,၁၁၂,၀၀၀ ) အိတ်မှ ( ၁၃,၂၀၀,၀၀၀ ) အိတ် နှစ်အလိုက် တိုးမြှင့်သုံးစွဲမည်ဖြစ်ကြောင်း၊ ထွက်ကုန်ပစ္စည်းများအနေဖြင့် ဂျုံမှုန့် (၇၃,၉၂၀)တန်မှ(၄၆၂,၀၀၀)တန် ၊ ဖွဲနု (၂၈,၅၁၂) တန်မှ (၁၇၈,၂၀၀)တန်၊ စွန့်ပစ်ပစ္စည်း (၃,၁၆၈)တန်မှ(၁၉,၈၀၀)တန် နှစ်အလိုက် တိုးမြှင့်ထွက်ရှိမည်ဖြစ်ကြောင်း ဖော်ပြထားသော်လည်း ထုတ်လုပ်မှုနည်းစဉ် နှင့် ထွက်ရှိလာမည့်စွန့် ပစ်ပစ္စည်းများအတွက်စီမံခန့်ခွဲမှုအစီအစဉ်များ ထည့်သွင်းဖော်ပြထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး ( သို့မဟုတ် ) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA ) ဆောင်ရွက်ရန်၊

(င) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP )ရေးဆွဲတင်ပြရန်နှင့်EMP စီမံချက် တွင်ပါရှိသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(စ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ ၊ စံချိန်စံညွှန်းများ နှင့် အညီ လိုက်နာကျင့်သုံးအကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

(ဆ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

၁၁/၃

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

DG 10/5/6/15

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

DDG 12/5/6

TIC 8/8/6

စာအမှတ်၊ မဗဘ/ဘဏ်စိစစ်/ထွေ(၃၈၃/၂၀၁၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တည်ထောင်ထားသည့် ကုမ္ပဏီများ၏ shareholders' Loan ချေးယူမည့်အစီအစဉ်များအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၄-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၆/၂၀၁၅(၂၉၀)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၄-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅(၂၉၁)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၄-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၉/၂၀၁၅(၂၉၂)

ရည်ညွှန်းချက်ပါစာ (၃) စောင်ဖြင့် မြန်မာနိုင်ငံကုမ္ပဏီတစ်ခုဖြစ်သော Diamond Star Co.,Ltd. မှ ၈၅% နှင့် ဂျပန်နိုင်ငံ၊ MC Food Holdings Asia Pte. Ltd. မှ ၁၅% အစုရှယ်ယာများထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Ltd. နှင့် Green Land International Ltd. တို့ ဖွဲ့စည်းတည်ထောင်၍ ဆောင်ရွက်မည့်လုပ်ငန်း(၃)မျိုးအတွက် MC Food Holdings Asia Pte. Ltd. ထံမှ အမေရိကန်ဒေါ်လာ ၁၃ သန်း၊ အမေရိကန်ဒေါ်လာ ၇ သန်း နှင့် အမေရိကန်ဒေါ်လာ ၁၀ သန်း အသီးသီးချေးယူမည့် အစီအစဉ်များတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းပြန်ကြားအပ်ပါသည်-

(က) ကုမ္ပဏီများအနေဖြင့် ရင်းနှီးမြှုပ်နှံမှုအဖြစ် မြန်မာနိုင်ငံအတွင်းသို့ယူဆောင်လာရမည့် နိုင်ငံခြားမတည်ငွေရင်းကို ယူဆောင်လာခြင်းမရှိသေးကြောင်း သိရှိရပါသည်။ သို့ဖြစ်ပါ၍ Debt to Equity အချိုးအား စိစစ်နိုင်ခြင်းမရှိပါ၊

(ခ) နိုင်ငံခြားမတည် ငွေရင်း၏ ၇၀% ထက်မနည်းသောပမာဏအား မြန်မာနိုင်ငံအတွင်း သို့ ယူဆောင်လာပြီးသည့် အခြေအနေရှိမှသာ ချေးငွေအားခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၅/၆/၂၀၁၅

ဥက္ကဋ္ဌ(ကိုယ်စား)

(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယဥက္ကဋ္ဌများ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ ငွေရေးကြေးရေးကြပ်မတ်ကွပ်ကဲမှုဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်

Lluvia Limited

☎-၀၁-၆၅၈၁၂၇
🖷-၀၁-၆၅၈၁၃၆


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့


စာအမှတ်၊ရက- ၂/ န-၁၁၇/ ၂၀၁၅ ( ၈၆၁ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **Lluvia Limited မှ ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တင်ပြလာသည့် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုစီးပွားရေးဆိုင်ရာစစ်ဆေးခြင်း(ESIA) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (EMP) များအတွက် EQM Co., Ltd. မှ လုပ်ကိုင် ပြီးစီးပြီဖြစ်ပါကြောင်း တင်ပြခြင်း**

ရည်ညွှန်းချက် ။ Lluvia Limited ၏ (၁-၁၀-၂၀၁၅) ရက်စွဲပါစာ

၁။ Lluvia Limited မှ ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကိုကိုကြီး(ခ) ဦးစိုးနိုင် (အဘ-ဦးစိန်မြင့်)မှ အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅/၂၀၁၅ကြိမ်မြောက် အစည်းအဝေးမှ သဘောတူခွင့်ပြုခဲ့ပြီး ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်စွဲဖြင့် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၃၉/၂၀၁၅ ကို ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားနှင့်အညီ Environmental Quality Management Co., Ltd.(EQM)မှ ရေးဆွဲထားသည့် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုစီးပွားရေးဆိုင်ရာစစ်ဆေးခြင်း(ESIA) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (EMP) များအား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရုံးလက်ခံ/ မျှောစာတွဲ

Z:\MIC (tsez)\LLUVIA Limited (Wheat)\forest (report).doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့


စာအမှတ်၊ ရက- ၂/န-၁၁၇/၂၀၁၅ ( ၅၀၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၂၆ ရက်

အကြောင်းအရာ။ **ဘဏ္ဍာရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက် ပြန်ကြားလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၇-၄-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၁၇ / ၂၀၁၅ (၂၉၁)

(၂) ဘဏ္ဍာရေးဝန်ကြီးဌာန၏ (၁၂-၆-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ဘခ-၁/၂၇၄ (၂၆၉၂/၂၀၁၅)

၁။ မြန်မာနိုင်ငံ Diamond Star Co., Ltd. မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၁၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ရန်အတွက် ချေးငွေအဖြစ် MC Food Holdings Asia Pte. Ltd. ထံမှ အမေရိကန်ဒေါ်လာ ၇.၀၀ သန်းအား ချေးယူမည့်အစီအစဉ် တင်ပြထားခြင်းအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပြီး ဘဏ္ဍာရေးဝန်ကြီးဌာနသို့ မိတ္တူပေးပို့ခဲ့ပါသည်။

၂။ ဘဏ္ဍာရေးဝန်ကြီးဌာနမှ Lluvia Limited အနေဖြင့် MC Food Holdings Asia Pte. Ltd. သို့ ပေးချေရမည့် အတိုးပေးငွေများအပေါ် ဘဏ္ဍာရေးဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာ အမှတ်၊ ၄၁/၂၀၁၄ အရ ပင်ရင်းမှ နှုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် ၁၅ % အား ဖြတ်တောက်ပေးသွင်းရမည်ဖြစ်ပါကြောင်း၊ ထို့အပြင် မြန်မာနိုင်ငံ တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ ၂၉ အရ မြေနှင့် အဆောက်အဦ ငှားယူသူ (Lessee) Lluvia Limited မှ ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန်များကို မြန်မာနိုင်ငံ တံဆိပ်ခေါင်းခွန် အက်ဥပဒေ ပုဒ်မ ၁၇ အရ စာချုပ် မချုပ်ဆိုမီဖြစ်စေ၊ ချုပ်ဆိုသည့်အခါ၌ ဖြစ်စေ ထမ်းဆောင်ရန် တာဝန်ရှိမည်ဖြစ်ပါကြောင်း၊ Lluvia Limited တွင် အစုရှယ်ယာ ထည့်ဝင်သည့် Diamond Star Co., Ltd. ၏ ရှယ်ယာ ၈၅ % ထည့်ဝင်ငွေအပေါ် ဝင်ငွေရလမ်း စိစစ်ရန် လိုအပ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းများ ဆောင်ရွက်ရာတွင် အခွန်ဆိုင်ရာ

ကိစ္စရပ်များနှင့် စပ်လျဉ်း၍ တည်ဆဲအခွန်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် သဘောထား ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ ဘဏ္ဍာရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား သိရှိနိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Lluvia Limited

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ
ဘဏ္ဍာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

NPT-3302

စာအမှတ်၊ ဘခ - ၁/၂၇၄ (၂၆၉၂/၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၁ ရက်

MIC 28/1616

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၄-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ (၂၉၁)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd မှ (၁၅%)အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ မြေနှင့်အဆောက်အဦတို့ကိုငှားရမ်းပြီး ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် MC Food Holdings Asia Pte. Limited ထံမှ ချေးငွေ အမေရိကန်ဒေါ်လာ (၇.၀၀)သန်း ချေးယူမည့် အစီအစဉ်အပေါ် ရည်ညွှန်းစာဖြင့် ပေးပို့လာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ Lluvia Limited အနေဖြင့် MC Food Holdings Asia Pte. Limited သို့ ပေးချေရမည့် အတိုးပေးငွေများအပေါ် ဘဏ္ဍာရေးဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၁/၂၀၁၀ အရ ပင်ရင်းမှနုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် ၁၅% အား ဖြတ်တောက်ပေးသွင်းရမည်ဖြစ်ပါသည်။ ထို့အပြင် မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ ၂၉ အရ မြေနှင့်အဆောက်အဦ ငှားယူသူ (Lessee) Lluvia Limited မှ ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန်များကို မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၁၇ အရ စာချုပ် မချုပ်ဆိုမီဖြစ်စေ၊ ချုပ်ဆိုသည့်အခါ၌ ဖြစ်စေ ထမ်းဆောင်ရန် တာဝန်ရှိမည် ဖြစ်ပါသည်။ Lluvia Limited တွင် အစုရှယ်ယာ ထည့်ဝင်သည့် Diamond Star Co., Ltd ၏ ရှယ်ယာ ၈၅% ထည့်ဝင်ငွေအပေါ် ဝင်ငွေရလမ်းစိစစ်ရန် လိုအပ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်ရာတွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍

တည်ဆဲအခွန်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း သိရှိနိုင်ပါရန် ညွှန်ကြားအကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မင်းသူ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို-

ပြည်တွင်းအခွန်များဦးစီးဌာန

NPF-3302

MIC 28/1616

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ

ဘဏ္ဍာရေး ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁ /၂၇၄ (၂၆၉၂ /၂၀၁၅)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ [illegible] ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၄-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက- ၂ / န-၁၁၇ / ၂၀၁၅ (၂၉၁)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd မှ (၁၅%)အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ မြေနှင့်အဆောက်အဦတို့ကိုငှားရမ်းပြီး ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် MC Food Holdings Asia Pte. Limited ထံမှ ချေးငွေ အမေရိကန်ဒေါ်လာ (၇.၀၀)သန်း ချေးယူမည့် အစီအစဉ်အပေါ် ရည်ညွှန်းစာဖြင့် ပေးပို့လာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ Lluvia Limited အနေဖြင့် MC Food Holdings Asia Pte. Limited သို့ ပေးချေရမည့် အတိုးပေးငွေများအပေါ် ဘဏ္ဍာရေးဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၁/၂၀၁၀ အရ ပင်ရင်းမှနုတ်ယူပေးသွင်းသည့်ဝင်ငွေခွန် ၁၅% အား ဖြတ်တောက်ပေးသွင်းရမည်ဖြစ်ပါသည်။ ထို့အပြင် မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ ၂၉ အရ မြေနှင့်အဆောက်အဦ ငှားယူသူ (Lessee) Lluvia Limited မှ ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန်များကို မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၁၇ အရ စာချုပ် မချုပ်ဆိုမီဖြစ်စေ၊ ချုပ်ဆိုသည့်အခါ၌ဖြစ်စေ ထမ်းဆောင်ရန် တာဝန်ရှိမည် ဖြစ်ပါသည်။ Lluvia Limited တွင် အစုရှယ်ယာ ထည့်ဝင်သည့် Diamond Star Co., Ltd ၏ ရှယ်ယာ ၈၅% ထည့်ဝင်ငွေအပေါ် ဝင်ငွေရလမ်းစိစစ်ရန် လိုအပ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်ရာတွင် အခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍

တည်ဆဲအခွန်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း သိရှိနိုင်ပါရန် ညွှန်ကြားအကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(မင်းသူ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို-

ပြည်တွင်းအခွန်များဦးစီးဌာန

DG 18
16/7/15

# CDSG

**Capital Diamond Star Group**

MIC 19
17/7/15

သို့

MC.553
14.7

NPT-3075
15.7.15

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

ရက်စွဲ ။ ။ ၂၀၁၅ခုနှစ်၊ ဇူလိုင်လ( ၃ )ရက်။

အကြောင်းအရာ။ ။ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥပဒေအရ ခွင့်ပြုရာတွင် ထည့်သွင်းစဉ်းစားသင့်သည်များကို အကြံပြုတင်ပြခြင်း။

၁။ အထက်ပါအကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်ခြင်းကဏ္ဍတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ သက်သာခွင့်များချမှတ် စဉ်းစားရာ၌ အောက်ပါအချက်များကို ထည့်သွင်းစဉ်းစားသင့်ကြောင်း တင်ပြလိုပါသည်-

(က) မြန်မာနိုင်ငံတွင် တိုင်းရင်းသားပိုင်ဂျုံစက်ပေါင်း(၆၀)ခန့်ရှိ၍ ကြိတ်ခွဲထုတ်လုပ်နိုင်မှုစွမ်းအားမှာ တစ်ရက်လျှင် မက်ထရစ်တန် ၃၀၀၀ ဝန်းကျင်ရှိပြီး ပြည်တွင်းစားသုံးမှုမှာ တစ်ရက်လျှင် မက်ထရစ်တန် ၁၂၀၀ ဝန်းကျင်သာ ရှိသေးသဖြင့် ထုတ်လုပ်နိုင်စွမ်း၏ ၄၀%ဝန်းကျင်သာ စားသုံးနိုင်ပါသည်။

(ခ) ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်သည့်စက်ရုံများသည် Import ဂျုံစေ့များကို အဓိက အသုံးပြုကြိတ်ခွဲထုတ်လုပ်ပြီး အခြားတိုင်းဒေသကြီးနှင့် ပြည်နယ်များရှိ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်သည့် စက်ရုံများသည် ပြည်ပဂျုံစေ့ကိုသာမက ပြည်တွင်းဂျုံစေ့များကိုလည်း အခြေခံ၍ ကြိတ်ခွဲထုတ်လုပ်ကြပါသည်။

(ဂ) ထို့ကြောင့် နိုင်ငံတကာအဆင့်မီ ဂျုံစက်ရုံများ အလုံအလောက်ရှိနှင့်ပြီးဖြစ်သော ရန်ကုန်တိုင်းဒေသကြီးအတွင်း ထပ်မံရင်းနှံမြှုပ်နှံခွင့်ပြုမည့်အစား အမှန်တကယ် ဖွံ့ဖြိုးမှုလိုအပ်နေသော တိုင်းနှင့်ပြည်နယ်များ၌သာ ရင်းနှီးမြှုပ်နှံခွင့်ပြုခြင်းဖြင့် တိုင်းနှင့်ပြည်နယ်များ တပြေးညီဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်းနှင့် ဂျုံစိုက်ဧရိယာများ တိုးတက်လာစေနိုင်ခြင်းတို့ကို ထည့်သွင်းစဉ်းစားပေးရန်တင်ပြပါသည်။

126/A, KaBarAye Pagoda Road, Sayar San Quarter, Bahan Township,Yangon, Myanmar
Tel:+951 501431, 527882, 540992 Tel:/Fax: +951 544330 Email: info@cdsg.com.mm Website: www.cdsg.com.mm

(ဃ) သို့ပါ၍ ရင်းနှီးမြှုပ်နှံမှုအသစ်ပေါ်ပေါက်လာပါက ပြည်ပဂျိုကိုသာ အဓိကထားသည့် ရန်ကုန်တိုင်းဒေသကြီးတွင် ခွင့်ပြုမည့်အစား ပြည်တွင်း၌ထွက်ရှိသည့် မန္တလေး၊ စစ်ကိုင်း၊ ရှမ်းပြည်နယ်တို့တွင်သာ ခွင့်ပြုသင့်ပါသည်။

အကယ်၍ ရန်ကုန်တိုင်းဒေသကြီးတွင် ခွင့်ပြုမည်ဆိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေအရ ခွင့်ပြုပေးနိုင်သော သက်သာခွင့်များကို ပေးရန်မသင့်ကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ကိုကိုကြီး
Group Managing Director
Capital Diamond Star Group

မိတ္တူကို

(၁) ရုံးလက်ခံ။

DG 18
16/7/15

**Capital Diamond Star Group**

ITC 19
17/7 သို့

MC-553
14-7

PT-3075
15-7-15

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

ရက်စွဲ ။ ။ ၂၀၁၅ခုနှစ်၊ ဇူလိုင်လ( ၃ )ရက်။

အကြောင်းအရာ။ ။ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥပဒေအရ ခွင့်ပြုရာတွင် ထည့်သွင်းစဉ်းစားသင့်သည်များကို အကြံပြုတင်ပြခြင်း။

၁။ အထက်ပါအကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်ခြင်းကဏ္ဍတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ သက်သာခွင့်များချမှတ် စဉ်းစားရာ၌ အောက်ပါအချက်များကို ထည့်သွင်းစဉ်းစားသင့်ကြောင်း တင်ပြလိုပါသည်-

(က) မြန်မာနိုင်ငံတွင် တိုင်းရင်းသားပိုင်ဂျုံစက်ပေါင်း(၆၀)ခန့်ရှိ၍ ကြိတ်ခွဲထုတ်လုပ်နိုင်မှုစွမ်းအားမှာ တစ်ရက်လျှင် မက်ထရစ်တန် ၃၀၀၀ ဝန်းကျင်ရှိပြီး ပြည်တွင်းစားသုံးမှုမှာ တစ်ရက်လျှင် မက်ထရစ်တန် ၁၂၀၀ ဝန်းကျင်သာ ရှိသေးသဖြင့် ထုတ်လုပ်နိုင်စွမ်း၏ ၄၀%ဝန်းကျင်သာ စားသုံးနိုင်ပါသည်။

(ခ) ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်သည့်စက်ရုံများသည် Import ဂျုံစေ့များကို အဓိက အသုံးပြုကြိတ်ခွဲထုတ်လုပ်ပြီး အခြားတိုင်းဒေသကြီးနှင့် ပြည်နယ်များရှိ ဂျုံမှုန့်ကြိတ်ခွဲထုတ်လုပ်သည့် စက်ရုံများသည် ပြည်ပဂျုံစေ့ကိုသာမက ပြည်တွင်းဂျုံစေ့များကိုလည်း အခြေခံ၍ ကြိတ်ခွဲထုတ်လုပ်ကြပါသည်။

(ဂ) ထို့ကြောင့် နိုင်ငံတကာအဆင့်မီ ဂျုံစက်ရုံများ အလုံအလောက်ရှိနှင့်ပြီးဖြစ်သော ရန်ကုန်တိုင်း ဒေသကြီးအတွင်း ထပ်မံရင်းနှီးမြှုပ်နှံခွင့်ပြုမည့်အစား အမှန်တကယ် ဖွံ့ဖြိုးမှုလိုအပ်နေသော တိုင်းနှင့်ပြည်နယ်များ၌သာ ရင်းနှီးမြှုပ်နှံခွင့်ပြုခြင်းဖြင့် တိုင်းနှင့်ပြည်နယ်များ တပြေးညီဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်းနှင့် ဂျုံစိုက်ဧရိယာများ တိုးတက်လာစေနိုင်ခြင်းတို့ကို ထည့်သွင်းစဉ်းစားပေးရန်တင်ပြပါသည်။

(ဃ) သို့ပါ၍ ရင်းနှီးမြှုပ်နှံမှုအသစ်ပေါ်ပေါက်လာပါက ပြည်ပဂျုံကိုသာ အဓိကထားသည့် ရန်ကုန်တိုင်းဒေသကြီးတွင် ခွင့်ပြုမည့်အစား ပြည်တွင်းဂျုံထွက်ရှိသည့် မန္တလေး၊ စစ်ကိုင်း၊ ရှမ်းပြည်နယ်တို့တွင်သာ ခွင့်ပြုသင့်ပါသည်။

အကယ်၍ ရန်ကုန်တိုင်းဒေသကြီးတွင် ခွင့်ပြုမည်ဆိုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေအရ ခွင့်ပြုပေးနိုင်သော သက်သာခွင့်များကို ပေးရန်မသင့်ကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ကိုကိုကြီး

Group Managing Director

Capital Diamond Star Group

မိတ္တူကို

(၁) ရုံးလက်ခံ။

ကုမ္ပဏီအမည် - Lluvia Limited

လုပ်ငန်း - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂-၂-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၁၁-၂-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန | ၁၆-၂-၂၀၁၅ | ၁၈-၂-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၃-၂-၂၀၁၅ | - | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၃-၂-၂၀၁၅ | ၁၁-၃-၂၀၁၅ | |
| | (ဃ) ကျန်းမာရေးဝန်ကြီးဌာန | ၂၃-၂-၂၀၁၅ | ၁၀-၃-၂၀၁၅ | |
| | (င) စက်မှုဝန်ကြီးဌာန | ၂၃-၂-၂၀၁၅ | ၁၁-၃-၂၀၁၅ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၆/၂၀၁၅) သို့ တင်ပြခြင်း | ၉-၂-၂၀၁၅ | | |
| ၅ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၈-၂-၂၀၁၅ | | |
| ၆ | မြေအသုံးပြုခွင့် တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၃/၂၀၁၅) သို့ တင်ပြခြင်း | ၂၇-၂-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး သို့တင်ပြရန်ဆောင်ရွက်ဆဲဖြစ်ပါသည်။ | | | |
| | (ဂ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၇ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၉-၂-၂၀၁၅ | | |
| ၈ | MIC တင်ပြရန် အဆိုပြုချက် ၈ စုံကို ကုမ္ပဏီမှ လက်ခံရရှိသည့်နေ့ | ၁၈-၃-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၄၅ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Lluvia Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၅၀၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ၂.၂၅၀ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁၀.၄၂၆ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - ၇ နှစ် |
| IRR | - ၂၄.၁၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၁၁,၈၂၉.၁၃၀ | ၅၄,၄၈၃.၈၄၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၂၇၀၂.၀၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၁%) | | ၁,၆၃၂.၀၀၀ |
| ၉ | မြေငှားရမ်းခ | | ၁,၅၂၆.၀၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၉၁ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၁,၈၃၀.၈၁ | ၆၀,၃၄၅.၀၀၅ |
| ၁၁ | Cost : Benefit | ၁ : ၅ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လျက်ရှိသော Lluvia Limited မှ ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အဖြစ် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Lluvia Limited<br>- ဦးကိုကိုကြီး (ခ) ဦးစိုးနိုင် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု (ဂျပန် ၁၅%၊ မြန်မာ ၈၅%)<br>- Diamond Star Co., Ltd. (၈၅%) (မြန်မာနိုင်ငံ)<br>- MC Food Holdings Asia Pte.Ltd. (၁၅%) (ဂျပန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၅၀၊ မြေတိုင်း ရပ်ကွက် အမှတ် ၁၁၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - PAC Link Trading Limited |
| | မြေအကျယ်အဝန်း | - ၂.၂၅၀ ဧက (၉၁၀၃.၅၀ စတုရန်း မီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD 218,484.00 (တစ်စတုရန်းမီတာလျှင် US$ ၂၄.၀၀ နှုန်း) |
| | မြေငှားရမ်းကာလ | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - တည်ဆောက်ပြီးဖြစ်ပါသည်။<br>- (မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ပြောင်းလဲဆောင်ရွက်ခြင်းဖြစ်ပါသည်။) |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၁၀,၄၂၆ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | US $ (သန်း) |
| | | ပြည်တွင်း / ပြည်ပ / စုစုပေါင်း |
| | ငွေသား | ၀.၁၉၉ / / ၀.၁၉၉ |
| | စက်ပစ္စည်းများ | ၁.၀၀၀ / / ၁.၀၀၀ |
| | မြေ/ အဆောက်အဦ | ၂.၀၀၀ / / ၂.၀၀၀ |
| | ရှုံးသုံးပရိဘောဂ | ၀.၂၂၆ / / ၀.၂၂၆ |
| | ကုန်ကြမ်း (Loan) | ၄.၃၅၆ / / ၄.၃၅၆ |
| | အခြား (Loan) | ၁.၀၈၀ / ၁.၅၆၃ / ၂.၆၄၃ |
| | **စုစုပေါင်း** | **၈.၈၆၂ / ၁.၅၆၃ / ၁၀.၄၂၆** |
| ၆။ | ဝန်ထမ်းအင်အား(ပြည်တွင်း) | - ၂၉၁ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၇၀% နှင့် ပြည်ပ ၃၀% |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ<br>(ဆဋ္ဌမမြောက်နှစ်) | - US $ ၅၇.၅၀ သန်း |
| | အသုံးစရိတ် | - US $ ၄၇.၈၄ သန်း |
| | အသားတင်အမြတ် | - US $ ၉.၆၆ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US $ ၃.၂၂ သန်း |
| | အရင်းကြေကာလ | - ၇ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၄.၁၀ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(ဆဋ္ဌမမြောက်နှစ်) | - ၂,၅၇၇,၉၈၄ Unit |

၁၂။ နှစ်စဉ်ထုတ်လုပ်မှု(ဆဌမ မြောက်နှစ်)

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/Kg) | ပြည်ပ (US$/Kg) |
| Flour | ၅၄,၉၇၈ | ၂၃,၅၆၂ | ၅၅၀ | ၀.၉၀ |
| Bran | - | ၃၀,၂၉၄ | ၂၀၀ | - |

၁၃။ စိစစ်တွေ့ရှိချက်

- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်စွဲပါစာဖြင့် Lluvia Limited အား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့် ပြုကြောင်း ကုမ္ပဏီသို့ ကြောင်းကြား စာအား တင်ပြ ထားပါသည်။
- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ခွင့်ပြုမိန့်ရရှိပါက မြန်မာနိုင်ငံသား ခွင့်ပြုမိန့် အား ပြန်လည် အပ်နှံရမည် ဖြစ်ပါသည်။
- ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ရရှိပါက Lluvia Limited အမည်ဖြင့် မှတ်ပုံတင်ထားသော မြန်မာကုမ္ပဏီ အား ရှယ်ယာလွှဲပြောင်း၍ နိုင်ငံခြား ကုမ္ပဏီသို့ ပြောင်းလဲ မှတ်ပုံတင်ရမည်ဖြစ်ပါသည်။
- ဖက်စပ်ကုမ္ပဏီ နှစ်ခုဖြစ်သော Diamond Star Co., Ltd. နှင့် MC Food Holdings Asia Pte Ltd. တို့သည် Mitsubishi Corporation မှ ချေးငွေ ရယူမည် ဖြစ်ပါသည်။ အတိုးနှုန်းမှာ ၅ % ဖြစ်ပြီး စတင်ယူဆောင်လာသည့် နေ့ရက်မှ ၅ နှစ် ပြည့်ပြီး နောက် ပြန်လည်ပေးချေမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။
- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့် ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြ ထား ပြီး စီးပွားရေးရာကော်မတီ နှင့် ပြည်ထောင်စုအစိုးရ

| | | |
|---|---|---|
| | | အဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။<br>- Lluvia Limited သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်အမှတ် မနသ ၆၉၃/၂၀၀၈(၁၈-၉-၂၀၀၈) ဖြင့် ဆောင်ရွက်ခဲ့သော လုပ်ငန်းဖြစ်ပြီး စီးပွားဖြစ်စတင်သည့်နေ့မှာ (၂၀-၁၀-၂၀၀၈) ဖြစ်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ(၃) နှစ် ခံစားခဲ့ပြီး ဖြစ်ပါကြောင်းနှင့် ၂၀၁၂-၂၀၁၃ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန် ထမ်းဆောင်ပြီးဖြစ်ကြောင်း စိစစ်တင်ပြ အပ်ပါသည်။<br>- ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။<br>- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ ၁၈-၃-၂၀၁၅ ရက်နေ့အထိသဘောထားပြန်ကြားလာခြင်းမရှိသေးပါ။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၁၁၇ /၂၀၁၅ ( ၂၁၇ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၃၁ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လျက်ရှိသော Lluvia Limited မှ ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုအဖြစ် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ မြန်မာနိုင်ငံ Diamond Star Co., Ltd. မှ ၈၅% နှင့် ဂျပန်နိုင်ငံ၊ MC Food Holdings Asia Pte. Ltd.) မှ ၁၅% အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၁၀၃.၅၀ စတုရန်း မီတာ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် PAC Link Trading Limited နှင့် Lluvia Limited တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းစာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံမှ Diamond Star Company Limited နှင့် ဂျပန်နိုင်ငံ မှ MC Food Holdings Asia Pte Limited တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement နှင့် Shareholders Agreement ၊ Lluvia Limited ၊ MC Food Holdings Asia Pte Limited နှင့် Diamond Star Company Limited နှင့် Mitsubishi Corporation တို့အကြား ချုပ်ဆိုမည့် Credit Line Agreement နှင့် Shareholders' Loan Agreement ၊ မြေအထောက်အထားများနှင့် အဆောက်အဦ ဓာတ်ပုံတို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့်ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၁၀၃.၅၀ စတုရန်းမီတာ)

အား တစ်စတုရန်း မီတာလျှင် US$ ၂၄ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခမှာ USD ၂၁၈,၄၈၄.၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်ပ (၁၅%) (US$ သန်း) | ပြည်တွင်း(၈၅%) (US$ သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | - | ၀.၁၉၉ | ၀.၁၉၉ |
| စက်ပစ္စည်းများ | - | ၁.၀၀၀ | ၁.၀၀၀ |
| မြေ/ အဆောက်အဦ | - | ၂.၀၀၀ | ၂.၀၀၀ |
| ရုံးသုံးပရိဘောဂ | - | ၀.၂၂၆ | ၀.၂၂၆ |
| ကုန်ကြမ်း (Loan) | - | ၄.၃၅၆ | ၄.၃၅၆ |
| အခြား (Loan) | ၁.၅၆၃ | ၁.၀၈၀ | ၂.၆၄၃ |
| **စုစုပေါင်း** | ၁.၅၆၃ | ၈.၈၆၂ | ၁၀.၄၂၆ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၂၉၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ဂျုံမှုန့်များကို ပြည်တွင်းတွင် ၇၀% နှင့် ပြည်ပသို့ ၃၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/Kg) | ပြည်ပ (US$/Kg) |
| Flour | ၅၄,၇၇၈ | ၂၃,၅၆၂ | ၅၅၀ | ၀.၉၀ |
| Bran | - | ၃၀,၂၉၄ | ၂၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၅၇.၅၀ |
| (ခ) | အသုံးစရိတ် | - | ၄၇.၈၄ |
| (ဂ) | အသားတင်အမြတ် | - | ၉.၆၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၃.၂၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၄.၁၀% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျသန့်ရှင်းစွာ သိုလှောင်ထား ရှိရန်နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအမံ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များ ရေးဆွဲ ဆောင်ရွက်ရန်၊

(၂) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှား ထိန်းချုပ် စနစ်ထည့်သွင်းဆောင်ရွက်ရန်နှင့် လုပ်သားများ လုပ်ငန်းခွင် လုံခြုံစိတ်ချမှု ရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေး ပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊

(၃) ဝန်ထမ်းအိမ်ရာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် ကောင်းမွန်သော

စွန့်ပစ်အရည်သန့်စင် စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည်/ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲ ဆောင်ရွက်ရန်၊

(၄) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment –EIA)၊ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan –EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင်ပါရှိသည့်အတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၅) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ EIA နှင့် EMP ဆောင်ရွက်မည့် အစီအစဉ်များကို EOM Co., Ltd. မှ လုပ်ကိုင်ဆောင်ရွက်နေပြီ ဖြစ်ပါကြောင်း တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ခ)**

(ခ) **ကျန်းမာရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - ဂ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုဆောင်ရွက်မည့် လုပ်ငန်းများနှင့် ပတ်သက်၍ အောက်ပါ အချက်များ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(၁) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်၊

(၂) ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၃) ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၄) အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ ပြဋ္ဌာန်းထားသော ဥပဒေ၊ အမိန့်နှင့် ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၅) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချော ထုတ်လုပ်မှု ညီညွတ်ပါကြောင်း၊

(၆) ဂျုံကုန်ကြမ်းအားလုံးအား ပြည်ပမှ တင်သွင်းမည်ဟု ဖော်ပြထားသဖြင့် ပြည်တွင်း၌ ဝယ်ယူရရှိနိုင်သည့် ပမာဏအား ပြည်တွင်းမှ ဝယ်ယူကြိတ်ခွဲ သင့်ပါကြောင်း၊

(၇) ပြည်တွင်း ဂျုံစိုက်တောင်သူများအတွက် ခေတ်မီစိုက်ပျိုးနည်းပညာများနှင့် မျိုးကောင်းမျိုးသန့်များ ရရှိနိုင်ရန်လည်း ရေရှည်တွင် အစီအမံများ ချမှတ် ဆောင်ရွက်သင့်ပါကြောင်း၊

(၈) Lluvia Limited မှ ဆောင်ရွက်မည့် ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်း လုပ်ငန်း သည် Green Land International Limited နှင့် ကုမ္ပဏီ အမည်နှင့် တည်နေရာသာ ကွာခြားပြီး ဒါရိုက်တာအဖွဲ့ဝင်များ တူညီနေခြင်း၊ လုပ်ငန်း တူညီနေခြင်းတို့ကြောင့် ကုမ္ပဏီအမည် (၂)ခုဖြင့် ဆောင်ရွက်ရန် တင်ပြ ထားခြင်းအား သင့်/မသင့် ပြန်လည်စိစစ်သင့်ကြောင်း၊

(၉) Lluvia Limited နှင့် Green Land International Limited ဖက်စပ် ကုမ္ပဏီ ၂ ခုမှ ထုတ်လုပ်မည့် ကုန်ပစ္စည်းများအား မည်သည့် ကုန်အမှတ် တံဆိပ်ဖြင့်ဈေးကွက်အတွင်းဖြန့်ဖြူးရောင်းချမည်ကို စိစစ်သင့် ပါကြောင်း၊

(၁၀)စက်ပစ္စည်းများစာရင်း တင်ပြထားခြင်း မရှိသဖြင့် စက်အင်အားနှင့် ကုန်ထုတ်လုပ်မှု ညီညွတ်မှု ရှိ/မရှိ စိစစ်နိုင်ရန်အတွက် အဓိကသုံးစွဲမည့် စက်ပစ္စည်းများအား Capacity နှင့်တကွ ပြန်လည်တင်ပြရန်၊

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် လိုအပ်ချက်များကို ပြင်ဆင် တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဂျပန်နိုင်ငံမှ Mitsubishi Corporation အမည်ဖြင့် The Bank of Tokyo-Mitsubishi UF J, Ltd. တွင် ၁၃-၁-၂၀၁၅ ရက်စွဲဖြင့် ဂျပန်ယန်း ၆၉၇၉၈.၈၄ သန်း နှင့် မြန်မာနိုင်ငံမှ Lluvia Limited အမည်ဖြင့် Myanmar Citizens Bank Ltd တွင် (၂-၂-၂၀၁၅) ရက်စွဲဖြင့် ကျပ် (၁၀၀၀.၁၀)သန်း ၊ နိုင်ငံခြားငွေ

အထောက်အထား အဖြစ် Lluvia Limited အမည်ဖြင့် MICB ဘဏ်ရှိ ၂၂-၇-၂၀၁၄ ရက်စွဲဖြင့် US$ (၉၉)၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများ ကို တင်ပြထားပါသည်။

၁၂။ Lluvia Limited မှ တည်နေရာပြမြေပုံ၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေး အတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များနှင့် ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၁% ကိုသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၄၉/၂၀၁၄ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၆/၂၀၁၅ (၉-၂-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်စွဲပါစာဖြင့် Lluvia Limited အား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့် ပြုကြောင်း ကုမ္ပဏီသို့ ကြောင်းကြားစာအား တင်ပြထားပါသည်။

(ခ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ခွင့်ပြုမိန့်ရရှိပါက မြန်မာနိုင်ငံသား ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံရမည်ဖြစ်ပါသည်။

(ဂ) ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုခွင့်ပြုမိန့်ရရှိပါက Lluvia Limited အမည်ဖြင့် မှတ်ပုံတင်ထားသော မြန်မာကုမ္ပဏီ အား ရှယ်ယာလွှဲပြောင်း၍ နိုင်ငံခြားကုမ္ပဏီသို့ ပြောင်းလဲ မှတ်ပုံတင်ရမည်ဖြစ်ပါသည်။

(ဃ) ဖက်စပ်ကုမ္ပဏီ နှစ်ခုဖြစ်သော Diamond Star Co., Ltd. နှင့် MC Food Holdings Asia Pte Ltd. တို့သည် Mitsubishi Corporation မှ ချေးငွေ ရယူမည် ဖြစ်ပါသည်။ အတိုးနှုန်းမှာ ၅ % ဖြစ်ပြီး စတင်ယူဆောင်လာသည့်နေ့ရက်မှ ၅ နှစ် ပြည့်ပြီးနောက် ပြန်လည်ပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ဌားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာကော်မတီ နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။

(စ) Lluvia Limited သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်အမှတ် မနသ ၆၉၃/၂၀၀၈(၁၈-၉-၂၀၀၈) ဖြင့် ဆောင်ရွက်ခဲ့သော လုပ်ငန်း ဖြစ်ပြီး စီးပွားဖြစ်စတင်သည့်နေ့မှာ (၂၀-၁၀-၂၀၀၈) ဖြစ်သောကြောင့် ဝင်ငွေခွန်ကင်း လွတ်ခွင့်ကာလ (၃) နှစ် ခံစားခဲ့ပြီး ဖြစ်ပါကြောင်းနှင့် ၂၀၁၂-၂၀၁၃ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်ထမ်းဆောင်ပြီးဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဆ) ပုဂ္ဂလိကမြေတွင် ဌားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

(ဇ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ၁၈-၃-၂၀၁၅ ရက်နေ့အထိ သဘောထား ပြန်ကြားလာခြင်း မရှိသေးပါ။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Lluvia Limited | **Lluvia Limited**<br>Represented by:<br>(၁) U Ko Ko Gyi @ U Soe Naing<br>Managing Director<br>Myanmar<br>12/Ka Ta Ta (Naing)012243<br>(၂) Daw Moe Moe<br>Director<br>Myanmar<br>9/Ma Ya Ma (Naing)026759<br>**MC Food Holdings Asia Pte Ltd**<br>Represented by:<br>(၃) Mr.Satoshi Yahagi<br>Director<br>Japanese<br>TK 2936317 | No. (34), University Avenue Road, Bahan Township, Yangon.<br><br>No. (34), University Avenue Road, Bahan Township, Yangon.<br><br>6-7-41 Miyazaki, Miyamae-KU, Kawasaki, Kanagawa, Japan. |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉- ၂၀၀၆၄၉၄ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၁၂၆)၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးကိုကိုကြီး (ခ) ဦးစိုးနိုင် မန်းနေဂျင်းဒါရိုက်တာ |
| ၄။ | ကုမ္ပဏီ အနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့သည့်လုပ်ငန်း အဆိုပြုလွှာ ပေးပို့ခြင်းကိစ္စ**

၁။ Lluvia Limited အား ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ်၊ ၉၃၉/၂၀၁၅ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ အထက်ပါလုပ်ငန်းနှင့် ပတ်သက်၍ ဝန်ထမ်းရေး၊ ကုန်သွယ်ရေးနှင့် အကောက်ခွန်ဆိုင်ရာ ကိစ္စများတွင် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ခွင့်ပြုမိန့်၊ ဆုံးဖြတ်ချက်နှင့် အဆိုပြုချက် အပြည့်အစုံအား ပူးတွဲ ပေးပို့အပ်ပါသည်။

ရဲညွန့်
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၂ / န-၁၁၇/ ၂၀၁၅ ( ၃၉၃ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

**ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးဌာနခွဲ**
**ရန်ကုန်တိုင်းဒေသကြီးရုံးခွဲ (OSS)**

26-5-15
26/5/15

မိတ္တူ
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

စာအမှတ်၊ရက-၂/န-၁၁၇ /၂၀၁၅ ( ၄၉၂ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**

**စီမံကိန်းရေးဆွဲရေးဦးစီးဌာန**

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုခဲ့သည့် လုပ်ငန်းအဆိုပြုလွှာ ပေးပို့ခြင်း**

၁။ Lluvia Limited အား ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ်၊ ၆၃၉/၂၀၁၅ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ အထက်ပါလုပ်ငန်းနှင့် ပတ်သက်၍ စီမံကိန်းဆိုင်ရာ ကိစ္စများတွင် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် အပြည့်အစုံအား ပူးတွဲ ပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(ရဲညွှန့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ (၃၉၄ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန**

**ညွှန်ကြားရေးမှူးချုပ်**
**အကောက်ခွန်ဦးစီးဌာန**

အကြောင်းအရာ။ **နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့သည့် လုပ်ငန်းအဆိုပြုလွှာ ပေးပို့ခြင်း**

၁။ Lluvia Limited အား ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် ခွင့်ပြုမိန့် အမှတ်၊ ၉၃၉/၂၀၁၅ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ အထက်ပါလုပ်ငန်းနှင့် ပတ်သက်၍ ကုန်သွယ်ရေး နှင့် အကောက်ခွန်ဆိုင်ရာ ကိစ္စများတွင် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် အပြည့်အစုံအား ပူးတွဲ ပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ရဲညွှန့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
☎ ၀၁-၆၅၈၁၂၇

စာအမှတ်၊ ရက- ၂ /န-၁၁၇/၂၀၁၅ (၃၉၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန**

**ညွှန်ကြားရေးမှူးချုပ်**
**အကောက်ခွန်ဦးစီးဌာန**

အကြောင်းအရာ။ **နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့သည့် လုပ်ငန်းအဆိုပြုလွှာ ပေးပို့ခြင်း**

၁။ Lluvia Limited အား ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် ခွင့်ပြုမိန့် အမှတ်၊ ၉၃၉/၂၀၁၅ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ အထက်ပါလုပ်ငန်းနှင့် ပတ်သက်၍ ကုန်သွယ်ရေး နှင့် အကောက်ခွန်ဆိုင်ရာ ကိစ္စများတွင် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် အပြည့်အစုံအား ပူးတွဲ ပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ရဲညွှန့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

စာအမှတ်၊ရက-၂/န-၁၁၇ /၂၀၁၅ ( ၃၉၂ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**

**စီမံကိန်းရေးဆွဲရေးဦးစီးဌာန**

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုခဲ့သည့် လုပ်ငန်းအဆိုပြုလွှာ ပေးပို့ခြင်း**

၁။ Lluvia Limited အား ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ်၊ ၉၃၉/၂၀၁၅ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ အထက်ပါလုပ်ငန်းနှင့် ပတ်သက်၍ စီမံကိန်းဆိုင်ရာ ကိစ္စများတွင် လိုအပ်သလို ဆောင်ရွက်နိုင် ပါရန် အဆိုပြုချက် အပြည့်အစုံအား ပူးတွဲ ပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(ရဲညွန့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၅ ရက်

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုခဲ့သည့် လုပ်ငန်း အဆိုပြုလွှာ ပေးပို့ခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စ နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေး ဆုံးဖြတ်ချက်အရ ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် အဆိုပြုလွှာအား ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန၊ အကောက်ခွန်ဦးစီးဌာန၊ စီမံကိန်းရေးဆွဲရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ ကြီးကြပ်ရေးဌာနခွဲနှင့် ရန်ကုန်တိုင်းဒေသကြီးရုံးခွဲ(OSS)တို့သို့ ပေးပို့မည့် (စာချော) အား ပြုစုတင်ပြ အပ်ပါသည်။

**ရေးသွင်းသူ**

(ချမ်းမြေ့အောင်)
ဒုတိယဦးစီးမှူး

**စိစစ်သူ**

(ဆုလတ်ဖြူ)
ဦးစီးအရာရှိ

**ဒုတိယညွှန်ကြားရေးမှူး**

၂။ MIC Permit ထုတ်ပေးခဲ့ပြီးဖြစ်သည့် Lluvia Limited ၏ အဆိုပြုလွှာအား ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန၊ အကောက်ခွန် ဦးစီးဌာန၊ စီမံကိန်းရေးဆွဲရေး ဦးစီးဌာန၊ ရင်းနှီး/ ကြီးကြပ်ဌာနခွဲ နှင့် ရန်ကုန်တိုင်းဒေသကြီးရုံးခွဲ (OSS) တို့ သို့ ပေးပို့မည့် စာများအား လက်မှတ်ရေးထိုး ပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

၂၆/၅

ညွှန်ကြားရေးမှူး

၃။

၂၆/၅

Annex 5

REVISED DRAFT FOR MIC RE-SUBMISSION (9 MARCH 2015)

DATED THE DAY OF 2015

BETWEEN

**LLUVIA LIMITED**

as Borrower

**AND**

**MC FOOD HOLDINGS ASIA PTE. LTD.**

as Lender

**AND**

**DIAMOND STAR COMPANY LIMITED**

as CDS Guarantor

**AND**

**MITSUBISHI CORPORATION**

---

# CREDIT LINE AGREEMENT

---

**THIS AGREEMENT** is made on the day of 2015

(1) **LLUVIA LIMITED** (Company Registration No. 5406/2013-2014), a Myanmar-incorporated company with registered business address at No. 126(A), Kabaraye Road, Bahan Township, Yangon Division, Myanmar (the "**Borrower**");

(2) **MC FOOD HOLDINGS ASIA PTE. LTD.** (Company Registration No. 201422223N), a limited liability company incorporated in the Republic of Singapore and having its registered business address at 1 Temasek Avenue #19-00, Millenia Tower, Singapore 039192 (the "**Lender**");

(3) **DIAMOND STAR COMPANY LIMITED** (Company Registration No. 165/1990-1991), a limited liability company incorporated and registered in Myanmar and having its registered business address at 256/260 Sule Pagoda Road, Kyauktada Township, Yangon (the "**CDS Shareholder**" or the "**CDS Guarantor**"); and

(4) **MITSUBISHI CORPORATION**, (Company Registration No. 0100-01-008771), a limited liability company incorporated under the laws of Japan with registered business address at 2-3-1 Marunouchi, Chiyoda-ku, Tokyo Japan ("**MC**", and together with the Lender, the "**MC Parties**")

**WHEREAS:**

(A) The CDS Shareholder has agreed to sell, and the Lender has agreed to purchase, shares in the Borrower equal to 15% of the issued share capital of the Borrower, and the CDS Shareholder and the Lender have entered into a shareholders' agreement dated **[insert date]** ("**Shareholders' Agreement**") to, inter alia, regulate their rights *inter-se* as shareholders of the Borrower.

(B) Subject to MC First Investment Completion (as defined in the Shareholders' Agreement), the Lender has agreed to provide a loan facility for an aggregate principal amount of up to US$152,900,000 on the terms and subject to the conditions as further specified in this Agreement and the Transaction Documents (each as hereafter defined).

(C) Further, as per the agreement between the Borrower, the CDS Shareholder and the MC Parties (on the terms ("**Option Terms**") set out in the relevant Transaction Documents), the Lender has the option ("**Option**") to subscribe for an additional 15% equity interest in the Borrower, subject to the Facility being made available in accordance with this Agreement.

(D) The CDS Guarantor has agreed to provide a guarantee, in proportion to its shareholding in the Borrower as at the MC First Investment Completion Date (as defined in the Shareholders' Agreement), in respect of the obligations of the Borrower pursuant to this Agreement.

(E) The Parties have agreed that the Facility shall be governed by the terms and conditions of this Agreement and the other Transaction Documents.

**IT IS AGREED** as follows:

## SECTION 1

## INTERPRETATION

### 1. DEFINITIONS AND INTERPRETATION

#### 1.1 Definitions

P. 26

# ကန့်သတ်

NPT-1186
19.2.15
MIC 38/2014

| |
|---|
| ကြေးနန်းလိပ်စာ - "စီစစ်တိုး" |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂ ၊ နေပြည်တော်

စာအမှတ်၊စစတ- ဦး / ၇၂၁(၅၄၆ /၂၀၁၅)
ရက်စွဲ၊၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်

**အမှာစာ**

အကြောင်းအရာ။ **Lluvia Limited မှ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၆-၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ရကာ-၂/န-၁၁၇/၂၀၁၅(၁၂၄)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ Diamond Star Group Limited မှ ၈၅%နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte Limited မှ ၁၅% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေး တွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီးတွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၁% ရရှိပြီး ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း ၊

(ခ) အရင်းအနှီး၏ အခွင့်အလမ်းစရိတ် ၁၂% ဖြင့် တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၁.၀၂ ရရှိပြီး အသားတင် လက်ငင်းတန်ဖိုးမှာ အမေရိကန်ဒေါ်လာ ၉.၃၉၉သန်း ရရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၈နှစ် ဖြစ်သဖြင့် အဆိုပြုလွှာပါ အရင်းကြေကာလ နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဃ) Lluvia Limited သည် ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် အမေရိကန်ဒေါ်လာ ၁၀.၄၂၆ သန်းဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊

(င) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်းဝန်ထမ်း ၂၉၁ ဦး အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်း၊

(စ) **ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုများ**အတွက် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် အစီအစဉ်များ ဆောင်ရွက်ထားရှိရန် လိုအပ်ပါကြောင်း၊

(ဆ) အဆိုပါ ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ခြင်းဖြင့် နိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများတိုးတက်မှုတစ်ဆင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်လာနိုင်စေခြင်း၊ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာများတိုးမြှင့် ရရှိစေနိုင်ခြင်းတို့ကို တွေ့ရှိရပါကြောင်း။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဒေါက်တာကျော်ဆန်း၊ညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

MIC, 25
13/3

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ (၂)၂၀၁၄-၂၀၁၅(၅၃၇၂)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၁၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၁၇/ ၂၀၁၅ (၁၄၆)

၁။ Lluvia Limited. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ်(၅၀)တွင် ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်းအား တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်-

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်း မှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ ပြဋ္ဌာန်းထားသော ဥပဒေ၊ အမိန့်နှင့်ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထုတ်လုပ်မှု ညီညွတ်မှု ရှိပါသည်။

(ဆ) ဂျုံကုန်ကြမ်းအားလုံးအား ပြည်ပမှ တင်သွင်းမည်ဟုဖော်ပြထားသဖြင့် ပြည်တွင်း၌ ဝယ်ယူရရှိနိုင်သည့် ပမာဏအား ပြည်တွင်းမှ ဝယ်ယူကြိတ်ခွဲသင့်ပါသည်။

(ဇ) ပြည်တွင်း ဂျုံစိုက်တောင်သူများအတွက် ခေတ်မီစိုက်ပျိုးနည်းပညာများနှင့်မျိုးကောင်းမျိုးသန့်များရရှိနိုင်ရန်လည်း ရေရှည်တွင် အစီအမံများ ချမှတ်ဆောင်ရွက်သင့်ပါသည်။

(ဈ) Lluvia Limited. မှ ဆောင်ရွက်မည့် ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းလုပ်ငန်းသည် Green Land International Limited. နှင့် ကုမ္ပဏီအမည်နှင့် တည်နေရာသာ ကွာခြားပြီး ဒါရိုက်တာအဖွဲ့ဝင်များတူညီနေခြင်း၊ လုပ်ငန်းတူညီနေခြင်းတို့ကြောင့် ကုမ္ပဏီအမည်(၂)ခုဖြင့် ဆောင်ရွက်ရန် တင်ပြထားခြင်းအား သင့်/မသင့် ပြန်လည်စိစစ်သင့်ပါသည်။

(ည) Lluvia Limited. နှင့် Green Land International Limited. ဖက်စပ်ကုမ္ပဏီ(၂)ခုမှ ထုတ်လုပ်မည့်ကုန်ပစ္စည်းများအား မည်သည့်ကုန်အမှတ်တံဆိပ်ဖြင့် ဈေးကွက်အတွင်း ဖြန့်ဖြူးရောင်းချမည်ကို စိစစ်သင့်ပါသည်။

(ဋ) စက်ပစ္စည်းများစာရင်း တင်ပြထားခြင်းမရှိသဖြင့် စက်အင်အားနှင့် ကုန်ထုတ်လုပ်မှု ညီညွတ်မှု ရှိ/မရှိ စိစစ်နိုင်ရန်အတွက် အဓိကသုံးစွဲမည့် စက်ပစ္စည်းများအား Capacity နှင့်တကွ ပြန်လည်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Lluvia Limited. မှ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၁/၉/၂၀၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မိုးဆွေ၊ ဒုတိယရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MIC, 28
13/3

စာအမှတ် ၂/၂၂၀(ခ)(၄)(၁၈၄၃/၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ မတ်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Liuvia Limited ၏ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ သဘောထားမှတ်ချက် တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃ -၂ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န -၁၁၇ / ၂၀၁၅ ( ၁၄၄ )

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ ၊ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte.,Ltd မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Liuvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ် ၊ စက်မှုမြို့ ၊ မြေတိုင်းရပ်ကွက် အမှတ် ( ၁၁၃ ) ၊ မြေကွက်အမှတ် ( ၅၀ ) ရှိ မြေ ( ၂.၂၅၀ ဧက ) ( ၉၈,၀၀၀ စတုရန်းပေ ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် ၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၄၅) နှစ် ဖြစ်ကြောင်း၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍ တွက်ချက်ထားမှုများ၊ ကုန်ကြမ်းပစ္စည်းများ အနေဖြင့် ဂျုံစေ့ ( ၁၀၅,၆၀၀ ) တန်မှ ( ၆၆၀,၀၀၀ ) တန်၊ ထုတ်ပိုးပစ္စည်းအနေဖြင့် ( ၂,၁၁၂,၀၀၀ ) အိတ်မှ ( ၁၃,၂၀၀,၀၀၀ ) အိတ် နှစ်အလိုက် တိုးမြှင့်သုံးစွဲမည်ဖြစ်ကြောင်း၊ ထွက်ကုန်ပစ္စည်းများအနေဖြင့် ဂျုံမှုန့် (၇၃,၉၂၀)တန်မှ(၄၆၂,၀၀၀)တန် ၊ ဖွဲနု (၂၈,၅၁၂) တန်မှ (၁၇၈,၂၀၀)တန်၊ စွန့်ပစ်ပစ္စည်း (၃,၁၆၈)တန်မှ(၁၉,၈၀၀)တန် နှစ်အလိုက် တိုးမြှင့်ထွက်ရှိမည်ဖြစ်ကြောင်း ဖော်ပြထားသော်လည်း ထုတ်လုပ်မှုနည်းစဉ် နှင့် ထွက်ရှိလာမည့်စွန့် ပစ်ပစ္စည်းများအတွက်စီမံခန့်ခွဲမှုအစီအစဉ်များ ထည့်သွင်းဖော်ပြထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျ သန့်ရှင်းစွာသိုလှောင်ထားရှိမှုမရှိပါက မှိုများ ၊ ဘက်တီးရီးယားများ နှင့် ပိုးမွှားများ ဝင်ရောက်နိုင်သဖြင့်စားသုံးသူတို့၏ ကျန်းမာရေးအားထိခိုက်စေနိုင်ခြင်း၊ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများနှင့် ထုတ်ပိုးရာတွင် အသုံးပြုမည့်အိတ်များမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျစီမံခန့်ခွဲခြင်း မရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း ၊ ကြိတ်ခွဲရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအားစနစ်တကျ သန့်စင်ထိန်းချုပ်မှုမရှိပါက ပတ်ဝန်းကျင် နှင့် လုပ်သားများကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ စက်ရုံ လည်ပတ်ရာမှ ထွက်ရှိလာမည့် အသံများအားလျော့ချရန် ဆူညံသံထိန်းချုပ်မည့် နည်းစနစ် ထည့်သွင်းဆောင်ရွက်ခြင်းမရှိပါက အသံညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း ၊ ဝန်ထမ်းအိမ်ယာများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်းစသော ပတ်ဝန်းကျင်ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ၊ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte.,Ltd မှ (၁၅%) အစု ရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Liuvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ် ၊ စက်မှုမြို့ ၊ မြေတိုင်းရပ်ကွက် အမှတ် ( ၁၁၃ )၊ မြေကွက်အမှတ် (၅၀) ရှိ မြေ (၂.၂၅၀ ဧက) ( ၉၈,၀၀၀ စတုရန်းပေ ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျသန့်ရှင်းစွာ သိုလှောင်ထားရှိရန် နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်းထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအမံများ ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များရေးဆွဲဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှားထိန်းချုပ် စနစ်ထည့်သွင်းဆောင်ရွက်ရန် နှင့် လုပ်သားများ လုပ်ငန်းခွင် လုံခြုံစိတ်ချမှုရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေးပစ္စည်းများတပ်ဆင်အသုံးပြုရန်၊

(ဂ) ဝန်ထမ်းအိမ်ရာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေ နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည်သန့်စင် စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည် /ပစ္စည်းစီမံခန့်ခွဲမှုအစီအမံများ၊ စီမံချက်များရေးဆွဲဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး ( သို့မဟုတ် ) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA ) ဆောင်ရွက်ရန်၊

(င) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP )ရေးဆွဲတင်ပြရန်နှင့်EMP စီမံချက် တွင်ပါရှိသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(စ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ ၊ စံချိန်စံညွှန်းများ နှင့် အညီ လိုက်နာကျင့်သုံးအကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

(ဆ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

22/3

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃. ၂. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န - ၁၁၇ / ၂၀၁၅ (၁၄၃)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂. ၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၉၁)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ နှိ မြေ ၂. ၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ)အား 1 sq metre အတွက် USD 24 per year နှုန်းဖြင့် (၅၀နှစ်+၁၀နှစ်+၁၀နှစ်) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/14.,(1)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၉.၃.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၇၃)အရ Lluvia Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလမ်းပန်းဆက်သွယ်ရေးဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Lluvia Limited
လက်ခံစာတွဲ
မျှောစာတွဲ

MIC 153
2313

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ကျန်းမာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၁၃မခ(က)၂၀၁၅(၁၀၅၉)/၅၃၉၈

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ( ၁၀ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃-၂-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရကာ-၂/န-၁၁၇/၂၀၁၅(၁၄၅)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte.Ltd မှ (၁၅%) အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ် (၅၀)ရှိ မြေ(၂.၂၅၀)ဧက (၉၈၀၁၀ စတုရန်းပေ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ပါသဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ စိစစ်ချက်အရ ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( စိန်ဝင်း၊ ရုံးအဖွဲ့မှူး)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

DG 14 16/3

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MIC 136 16/3

NDPT 1712 13.5.15

စာအမှတ် ၂/၂၂၀(ခ)(၄)(၁၈၄၃/၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ မတ်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Liuvia Limited ၏ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ သဘောထားမှတ်ချက် တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃ -၂ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န -၁၁၇ / ၂၀၁၅ ( ၁၄၄ )

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ ၊ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte.,Ltd မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Liuvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ် ၊ စက်မှုမြို့ ၊ မြေတိုင်းရပ်ကွက် အမှတ် ( ၁၁၃ )၊ မြေကွက်အမှတ် ( ၅၀ ) ရှိ မြေ ( ၂.၂၅၀ ဧက ) ( ၉၈,၀၀၀ စတုရန်းပေ ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် ၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၄၅) နှစ် ဖြစ်ကြောင်း၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍ တွက်ချက်ထားမှုများ၊ ကုန်ကြမ်းပစ္စည်းများ အနေဖြင့် ဂျုံစေ့ ( ၁၀၅,၆၀၀ ) တန်မှ ( ၆၆၀,၀၀၀ ) တန်၊ ထုတ်ပိုးပစ္စည်းအနေဖြင့် ( ၂,၁၁၂,၀၀၀ ) အိတ်မှ ( ၁၃,၂၀၀,၀၀၀ ) အိတ် နှစ်အလိုက် တိုးမြှင့်သုံးစွဲမည်ဖြစ်ကြောင်း၊ ထွက်ကုန်ပစ္စည်းများအနေဖြင့် ဂျုံမှုန့် (၇၃,၉၂၀)တန်မှ(၄၆၂,၀၀၀)တန် ၊ ဖွဲနု (၂၈,၅၁၂) တန်မှ (၁၇၈,၂၀၀)တန်၊ စွန့်ပစ်ပစ္စည်း (၃,၁၆၈)တန်မှ(၁၉,၈၀၀)တန် နှစ်အလိုက် တိုးမြှင့်ထွက်ရှိမည်ဖြစ်ကြောင်း ဖော်ပြထားသော်လည်း ထုတ်လုပ်မှုနည်းစဉ် နှင့် ထွက်ရှိလာမည့်စွန့် ပစ်ပစ္စည်းများအတွက်စီမံခန့်ခွဲမှုအစီအစဉ်များ ထည့်သွင်းဖော်ပြထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျ သန့်ရှင်းစွာသိုလှောင်ထားရှိမှုမရှိပါက မှိုများ ၊ ဘက်တီးရီးယားများ နှင့် ပိုးမွှားများ ဝင်ရောက်နိုင်သဖြင့်စားသုံးသူတို့၏ ကျန်းမာရေးအားထိခိုက်စေနိုင်ခြင်း၊ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများနှင့် ထုတ်ပိုးရာတွင် အသုံးပြုမည့်အိတ်များမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျစီမံခန့်ခွဲခြင်း မရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း ၊ ကြိတ်ခွဲရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအားစနစ်တကျ သန့်စင်ထိန်းချုပ်မှုမရှိပါက ပတ်ဝန်းကျင် နှင့် လုပ်သားများကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ စက်ရုံ လည်ပတ်ရာမှ ထွက်ရှိလာမည့် အသံများအားလျော့ချရန် ဆူညံသံထိန်းချုပ်မည့် နည်းစနစ် ထည့်သွင်းဆောင်ရွက်ခြင်းမရှိပါက အသံညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း ၊ ဝန်ထမ်းအိမ်ယာများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်းစသော ပတ်ဝန်းကျင်ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ၊ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte.,Ltd မှ (၁၅%) အစု ရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Liuvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ် ၊ စက်မှုမြို့ ၊ မြေတိုင်းရပ်ကွက် အမှတ် ( ၁၁၃ )၊ မြေကွက်အမှတ် (၅၀) ရှိ မြေ (၂.၂၅၀ ဧက) ( ၉၈,၀၀၀ စတုရန်းပေ ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျသန့်ရှင်းစွာ သိုလှောင်ထားရှိရန် နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်းထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအမံများ ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များရေးဆွဲဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှားထိန်းချုပ် စနစ်ထည့်သွင်းဆောင်ရွက်ရန် နှင့် လုပ်သားများ လုပ်ငန်းခွင် လုံခြုံစိတ်ချမှုရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေးပစ္စည်းများတပ်ဆင်အသုံးပြုရန်၊

(ဂ) ဝန်ထမ်းအိမ်ရာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေ နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည်သန့်စင် စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည် /ပစ္စည်းစီမံခန့်ခွဲမှုအစီအမံများ၊ စီမံချက်များရေးဆွဲဆောင်ရွက်ရန်၊

MIC၊ 23/13/3

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ကျန်းမာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၁၃မခ(က)၂၀၁၅(၁၀၅၉)/၅၃၉၈

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ(၁၀ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃-၂-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅(၁၄၅)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte.Ltd မှ (၁၅%) အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ် (၅၀)ရှိ မြေ(၂.၂၅၀)ဧက (၉၈၀၀၀ စတုရန်းပေ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ပါသဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ စိစစ်ချက်အရ ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( စိန်ဝင်း၊ ရုံးအဖွဲ့မှူး)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၄ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာ ဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များပြန်ကြားလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား သိရှိနိုင်ပါရန် ကုမ္ပဏီသို့ အကြောင်းကြားမည့် စာကြမ်းအား ပြုစု တင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ(၁) | စိစစ်သူ(၂) |
|---|---|---|
| | 16.3.15 | 16.3.15 |
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) | (စန္ဒာအောင်) |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။

16.3.2015

ညွှန်မှူး

၃။

ဌာ၊မှူး

၄။

ဒုညွှန်ချုပ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☏၀၁-၆၅၈၁၂၇ — စာအမှတ်၊ ရက- ၂ /န-၁၁၇/၂၀၁၅ (၂၂၀-ဂ)

🖷၀၁-၆၅၈၁၃၆ — ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၈ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် ပြန်ကြားလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ ၁၁-၃-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀ (ခ) (၄) (၁၈၄၃/၂၀၁၅)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာ ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျသန့်ရှင်းစွာ သိုလှောင်ထား ရှိရန်နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ အတွက် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအမံ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များ ရေးဆွဲ ဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှား ထိန်းချုပ် စနစ်ထည့်သွင်းဆောင်ရွက်ရန်နှင့် လုပ်သားများ လုပ်ငန်းခွင် လုံခြုံစိတ်ချမှု ရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေး ပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊

(ဂ) ဝန်ထမ်းအိမ်ရာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည်သန့်စင်

စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည်/ပစ္စည်း စီမံခန့်ခွဲမှုအစီအမံများ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA)၊ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan –EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင် ပါရှိသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား သိရှိနိုင် ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

**Lluvia Limited**

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၄ / ၂၀၀၈ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၀ ခုနှစ်၊ တော်သလင်းလပြည့်ကျော် ၄ ရက်

(၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) မှ Pac Link Trading Ltd. အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် (၅၀)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၁၃)၊ အရှေ့ဒဂုံ စက်မှုဇုန်၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၂၅) ဧက(၉၁၀၅.၄၄ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်းအသုံးပြု၍ ဂျုံကြိတ်ခွဲရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၆ - ၆ - ၂၀၀၈)နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅/ ၂၀၀၈) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၁-၇-၂၀၀၈) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၄/ ၂၀၀၈) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ ( ၄ - ၉ -၂၀၀၈) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ ( ၃၀ / ၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd)အား ဂျုံကြိတ်ခွဲရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၉၃ / ၂၀၀၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုလိုက် သည်။ ဥပဒေပုဒ်မ (၁၃) အရ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားလိုပါက ကော်မရှင်သို့ လျှောက်ထားနိုင်သည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများ အတွက် နိုင်ငံခြားငွေ ရရှိပုံ နည်းလမ်း (Source of Payments for Import) ဥပမာ- ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် <u>ထုတ်လုပ်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက်</u> အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ Pac Link Manufacturing Co., Ltd. နှင့် အငှားချထားခြင်းခံရသူ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ <u>မပျက်မကွက်</u> ပေးပို့တင်ပြရမည်။

၈။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) သည် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း အထက်အဖွဲ့အစည်းမှ လမ်းညွှန်ချက်နှင့်အညီ ကိုယ်တိုင် ဂျုံစိုက်ပျိုး ထုတ်လုပ်နိုင်ရေးအတွက် ဆောင်ရွက်ရမည်။

၉။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd.) မှ ဂျုံကြိတ်ခွဲ၍ ပြည်တွင်းဈေးကွက်အတွင်း ဖြန့်ဖြူးရောင်းချရန် သက်ဆိုင်ရာဌာနများ၏ ခွင့်ပြုချက်ရယူရမည်။

၁၀။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင် ခံရမည်။

၁၂။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၃။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ်(ဧပြီ/အောက်တိုဘာ လများ) <u>မပျက်မကွက်</u> ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး

စက်ရုံပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၉၉၆/၂၀၀၈(၁၄ ၉ ၆ ၀)

ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ စက်တင်ဘာ လ ၁၈ ရက်။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၂။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စားသောက်ကုန် လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဒိုင်းမွန်းစတား ကုမ္ပဏီလီမိတက် (Diamond Star Co., Ltd)

PD8

**ကုမ္ပဏီအမည်** - **Lluvia Limited**

**လုပ်ငန်း** - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂-၂-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၁၁-၂-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန | ၁၆-၂-၂၀၁၅ | ၁၈-၂-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၃-၂-၂၀၁၅ | - | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၃-၂-၂၀၁၅ | ၁၁-၃-၂၀၁၅ | |
| | (ဃ) ကျန်းမာရေးဝန်ကြီးဌာန | ၂၃-၂-၂၀၁၅ | ၁၀-၃-၂၀၁၅ | |
| | (င) စက်မှုဝန်ကြီးဌာန | ၂၃-၂-၂၀၁၅ | ၁၁-၃-၂၀၁၅ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၆/၂၀၁၅) သို့ တင်ပြခြင်း | ၉-၂-၂၀၁၅ | | |
| ၅ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၈-၂-၂၀၁၅ | | |
| ၆ | မြေအသုံးပြုခွင့် တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၃/၂၀၁၅) သို့ တင်ပြခြင်း | ၂၇-၂-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့တင်ပြရန်ဆောင်ရွက်ဆဲဖြစ်ပါသည်။ | | | |
| | (ဂ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြရန်ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၇ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၉-၂-၂၀၁၅ | | |
| ၈ | MIC တင်ပြရန် အဆိုပြုချက် ၈ စုံကို ကုမ္ပဏီမှ လက်ခံရရှိသည့်နေ့ | ၁၈-၃-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၄၅ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Lluvia Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၅၀၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ၂.၂၅၀ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁၀.၄၂၆ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - ၇ နှစ် |
| IRR | - ၂၄.၁၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | | - |
| ၄ | ဝင်ငွေခွန် | ၁၁,၈၂၉.၁၃၀ | ၅၄,၄၈၃.၈၄၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၂၇၀၂.၀၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၁%) | | ၁,၆၃၂.၀၀၀ |
| ၉ | မြေငှားရမ်းခ | | ၁,၅၂၆.၀၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၉၁ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၁,၈၃၀.၈၁ | ၆၀,၃၄၅.၀၀၅ |
| ၁၁ | Cost : Benefit | ၁ : ၅ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လျက်ရှိသော Lluvia Limited မှ ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အဖြစ် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Lluvia Limited<br>- ဦးကိုကိုကြီး (ခ) ဦးစိုးနိုင် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု (ဂျပန် ၁၅%၊ မြန်မာ ၈၅%)<br>- Diamond Star Co., Ltd. (၈၅%)<br>(မြန်မာနိုင်ငံ)<br>- MC Food Holdings Asia Pte.Ltd. (၁၅%)<br>(ဂျပန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၅၀၊ မြေတိုင်း ရပ်ကွက် အမှတ် ၁၁၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| | မြေပိုင်ရှင် | - PAC Link Trading Limited |
| | မြေအကျယ်အဝန်း | - ၂.၂၅၀ ဧက (၉၁၀၃.၅၀ စတုရန်း မီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ<br>ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD 218,484.00<br>(တစ်စတုရန်းမီတာလျှင်US$ ၂၄.၀၀ နှုန်း) |
| | မြေငှားရမ်းကာလ | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - တည်ဆောက်ပြီးဖြစ်ပါသည်။<br>- (မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ပြောင်းလဲဆောင်ရွက်ခြင်းဖြစ်ပါသည်။) |

| | | | | |
|---|---|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၁၀,၄၂၆ သန်း | | |
| | ထည့်ဝင်သည့်အမျိုးအစား | | | US $ (သန်း) |
| | | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
| | ငွေသား | ၀.၁၉၉ | | ၀.၁၉၉ |
| | စက်ပစ္စည်းများ | ၁.၀၀၀ | | ၁.၀၀၀ |
| | မြေ/ အဆောက်အဦ | ၂.၀၀၀ | | ၂.၀၀၀ |
| | ရုံးသုံးပရိဘောဂ | ၀.၂၂၆ | | ၀.၂၂၆ |
| | ကုန်ကြမ်း (Loan) | ၄.၃၅၆ | | ၄.၃၅၆ |
| | အခြား (Loan) | ၁.၀၈၀ | ၁.၅၆၃ | ၂.၆၄၃ |
| | **စုစုပေါင်း** | **၈.၈၆၂** | **၁.၅၆၃** | **၁၀.၄၂၆** |
| ၆။ | ဝန်ထမ်းအင်အား(ပြည်တွင်း) | - ၂၉၁ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါသည်။) | | |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၇၀% နှင့် ပြည်ပ ၃၀% | | |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US $ ၅၇.၅၀ သန်း | | |
| | အသုံးစရိတ် | - US $ ၄၇.၈၄ သန်း | | |
| | အသားတင်အမြတ် | - US $ ၉.၆၆ သန်း | | |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | | | |
| | ဝင်ငွေခွန် | - US $ ၃.၂၂ သန်း | | |
| | အရင်းကြေကာလ | - ၇ နှစ် | | |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၄.၁၀ % | | |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) | - ၂,၅၇၇,၉၈၄ Unit | | |

<table>
<tr><td>၁၂။</td><td>နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်)</td><td>
<table>
<tr><th rowspan="2">ပစ္စည်း အမျိုးအစား</th><th colspan="2">ထုတ်လုပ်မှု အရေအတွက် (Ton)</th><th colspan="2">ရောင်းဈေးနှုန်း</th></tr>
<tr><th>ပြည်တွင်း</th><th>ပြည်ပ</th><th>ပြည်တွင်း (ကျပ်/Kg)</th><th>ပြည်ပ (US$/Kg)</th></tr>
<tr><td>Flour</td><td>၅၄,၉၇၈</td><td>၂၃,၅၆၂</td><td>၅၅၀</td><td>၀.၉၀</td></tr>
<tr><td>Bran</td><td>-</td><td>၃၀,၂၉၄</td><td>၂၀၀</td><td>-</td></tr>
</table>
</td></tr>
<tr><td>၁၃။</td><td>စိစစ်တွေ့ရှိချက်</td><td>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်စွဲပါစာဖြင့် Lluvia Limited အား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းလဲဆောင်ရွက်ခွင့် ပြုကြောင်း ကုမ္ပဏီသို့ ကြောင်းကြားစာအား တင်ပြ ထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ခွင့်ပြုမိန့်ရရှိပါက မြန်မာနိုင်ငံသား ခွင့်ပြုမိန့် အား ပြန်လည် အပ်နှံရမည်ဖြစ်ပါသည်။<br>- ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ရရှိပါက Lluvia Limited အမည်ဖြင့် မှတ်ပုံတင်ထားသော မြန်မာကုမ္ပဏီ အား ရှယ်ယာလွှဲပြောင်း၍ နိုင်ငံခြားကုမ္ပဏီသို့ ပြောင်းလဲ မှတ်ပုံတင်ရမည်ဖြစ်ပါသည်။<br>- ဖက်စပ်ကုမ္ပဏီ နှစ်ခုဖြစ်သော Diamond Star Co., Ltd. နှင့် MC Food Holdings Asia Pte Ltd. တို့သည် Mitsubishi Corporation မှ ချေးငွေရယူမည် ဖြစ်ပါသည်။ အတိုးနှုန်းမှာ ၅ % ဖြစ်ပြီး စတင်ယူဆောင်လာသည့် နေ့ရက်မှ ၅ နှစ် ပြည့်ပြီးနောက် ပြန်လည်ပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့် ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြ ထားပြီး စီးပွားရေးရာကော်မတီ နှင့် ပြည်ထောင်စုအစိုးရ</td></tr>
</table>

| | | |
|---|---|---|
| | | အဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။<br>- Lluvia Limited သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့်အမှတ် မနသ ၆၉၃/၂၀၀၈(၁၈-၉-၂၀၀၈) ဖြင့် ဆောင်ရွက်ခဲ့သော လုပ်ငန်းဖြစ်ပြီး စီးပွားဖြစ်စတင်သည့်နေ့မှာ (၂၀-၁၀-၂၀၀၈) ဖြစ်သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ(၃) နှစ် ခံစားခဲ့ပြီး ဖြစ်ပါကြောင်းနှင့် ၂၀၁၂-၂၀၁၃ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန် ထမ်းဆောင်ပြီးဖြစ်ကြောင်း စိစစ်တင်ပြ အပ်ပါသည်။<br>- ပုဂ္ဂလိကမြေတွင် ဇွားရမ်း ဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။<br>- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ ၁၈-၃-၂၀၁၅ ရက်နေ့အထိသဘောထားပြန်ကြားလာခြင်းမရှိသေးပါ။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကဘ-၂/ န-၁၁၇ /၂၀၁၅ ( ၂၁၇ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၃၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လျက်ရှိသော Lluvia Limited မှ ဂျုံကြိတ်ခွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုအဖြစ် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ မြန်မာနိုင်ငံ Diamond Star Co., Ltd. မှ ၈၅% နှင့် ဂျပန်နိုင်ငံ၊ MC Food Holdings Asia Pte. Ltd.) မှ ၁၅% အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၁၀၅.၅၀ စတုရန်း မီတာ)နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် PAC Link Trading Limited နှင့် Lluvia Limited တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းစာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံမှ Diamond Star Company Limited နှင့် ဂျပန်နိုင်ငံ မှ MC Food Holdings Asia Pte Limited တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement နှင့် Shareholders Agreement ၊ Lluvia Limited ၊ MC Food Holdings Asia Pte Limited နှင့် Diamond Star Company Limited နှင့် Mitsubishi Corporation တို့အကြား ချုပ်ဆိုမည့် Credit Line Agreement နှင့် Shareholders' Loan Agreement ၊ မြေအထောက်အထားများနှင့် အဆောက်အဦ ဓာတ်ပုံတို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့်ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၁၀၅.၅၀ စတုရန်းမီတာ)

အား တစ်စတုရန်း မီတာလျှင် US$ ၂၄ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခမှာ USD ၂၁၈,၄၈၄.၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်ပ (၁၅%) (US$ သန်း) | ပြည်တွင်း(၈၅%) (US$ သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | - | ၀.၁၉၉ | ၀.၁၉၉ |
| စက်ပစ္စည်းများ | - | ၁.၀၀၀ | ၁.၀၀၀ |
| မြေ/ အဆောက်အဦ | - | ၂.၀၀၀ | ၂.၀၀၀ |
| ရုံးသုံးပရိဘောဂ | - | ၀.၂၂၆ | ၀.၂၂၆ |
| ကုန်ကြမ်း (Loan) | - | ၄.၃၅၆ | ၄.၃၅၆ |
| အခြား (Loan) | ၁.၅၆၃ | ၁.၀၈၀ | ၂.၆၄၃ |
| **စုစုပေါင်း** | **၁.၅၆၃** | **၈.၈၆၂** | **၁၀.၄၂၆** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၂၈၁)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ဂျုံမှုန့်များကို ပြည်တွင်းတွင် ၇၀% နှင့် ပြည်ပသို့ ၃၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းချမှု ဈေးနှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/Kg) | ပြည်ပ (US$/Kg) |
| Flour | ၅၄,၉၇၈ | ၂၃,၅၆၂ | ၅၅၀ | ၀.၉၀ |
| Bran | - | ၃၀,၂၉၄ | ၂၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၅၇.၅၀ |
| (ခ) | အသုံးစရိတ် | - | ၄၇.၈၄ |
| (ဂ) | အသားတင်အမြတ် | - | ၉.၆၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၃.၂၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၄.၁၀% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ဂျုံစေ့များအား စနစ်တကျသန့်ရှင်းစွာ သိုလှောင်ထား ရှိရန်နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအမံ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များ ရေးဆွဲ ဆောင်ရွက်ရန်၊

(၂) လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာမည့် အမှုန်အမွှားများအတွက် အမှုန်အမွှား ထိန်းချုပ် စနစ်ထည့်သွင်းဆောင်ရွက်ရန်နှင့် လုပ်သားများ လုပ်ငန်းခွင် လုံခြုံစိတ်ချမှု ရှိစေရေးအတွက် လုပ်ငန်းခွင်လုံခြုံရေး ပစ္စည်းများ တပ်ဆင်အသုံးပြုရန်၊

(၃) ဝန်ထမ်းအိမ်ရာများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် ကောင်းမွန်သော

စွန့်ပစ်အရည်သန့်စင် စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည်/ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲ ဆောင်ရွက်ရန်၊

(၄) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment –EIA)၊ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan –EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင်ပါရှိသည့်အတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၅) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

**[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန မှ သဘောထားမှတ်ချက်နှင့်အညီ EIA နှင့် EMP ဆောင်ရွက်မည့် အစီအစဉ်များကို EOM Co., Ltd. မှ လုပ်ကိုင်ဆောင်ရွက်နေပြီ ဖြစ်ပါကြောင်း တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ခ)**

(ခ) **ကျန်းမာရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - ဂ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုဆောင်ရွက်မည့် လုပ်ငန်းများနှင့် ပတ်သက်၍ အောက်ပါ အချက်များ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(၁) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်၊

(၂) ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၃) ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၄) အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ ပြဌာန်းထားသော ဥပဒေ၊ အမိန့်နှင့် ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၅) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချော ထုတ်လုပ်မှု ညီညွတ်ပါကြောင်း၊

(၆) ဂျုံကုန်ကြမ်းအားလုံးအား ပြည်ပမှ တင်သွင်းမည်ဟု ဖော်ပြထားသဖြင့် ပြည်တွင်း၌ ဝယ်ယူရရှိနိုင်သည့် ပမာဏအား ပြည်တွင်းမှ ဝယ်ယူကြိတ်ခွဲသင့်ပါကြောင်း၊

(၇) ပြည်တွင်း ဂျုံစိုက်တောင်သူများအတွက် ခေတ်မီစိုက်ပျိုးနည်းပညာများနှင့် မျိုးကောင်းမျိုးသန့်များ ရရှိနိုင်ရန်လည်း ရေရှည်တွင် အစီအမံများ ချမှတ်ဆောင်ရွက်သင့်ပါကြောင်း၊

(၈) Lluvia Limited မှ ဆောင်ရွက်မည့် ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်း လုပ်ငန်းသည် Green Land International Limited နှင့် ကုမ္ပဏီ အမည်နှင့် တည်နေရာသာ ကွာခြားပြီး ဒါရိုက်တာအဖွဲ့ဝင်များ တူညီနေခြင်း၊ လုပ်ငန်းတူညီနေခြင်းတို့ကြောင့် ကုမ္ပဏီအမည် (၂)ခုဖြင့် ဆောင်ရွက်ရန် တင်ပြထားခြင်းအား သင့်/မသင့် ပြန်လည်စိစစ်သင့်ကြောင်း၊

(၉) Lluvia Limited နှင့် Green Land International Limited ဖက်စပ်ကုမ္ပဏီ ၂ ခုမှ ထုတ်လုပ်မည့် ကုန်ပစ္စည်းများအား မည်သည့် ကုန်အမှတ်တံဆိပ်ဖြင့်ဈေးကွက်အတွင်းဖြန့်ဖြူးရောင်းချမည်ကို စိစစ်သင့် ပါကြောင်း၊

(၁၀) စက်ပစ္စည်းများစာရင်း တင်ပြထားခြင်း မရှိသဖြင့် စက်အင်အားနှင့် ကုန်ထုတ်လုပ်မှု ညီညွတ်မှု ရှိ/မရှိ စိစစ်နိုင်ရန်အတွက် အဓိကသုံးစွဲမည့် စက်ပစ္စည်းများအား Capacity နှင့်တကွ ပြန်လည်တင်ပြရန်၊

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် လိုအပ်ချက်များကို ပြင်ဆင်တင်ပြထားပါသည်။]** **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဂျပန်နိုင်ငံမှ Mitsubishi Corporation အမည်ဖြင့် The Bank of Tokyo-Mitsubishi UF J, Ltd. တွင် ၁၃-၁-၂၀၁၅ ရက်စွဲဖြင့် ဂျပန်ယန်း ၆၉၇၉၈.၈၄ သန်း နှင့် မြန်မာနိုင်ငံမှ Lluvia Limited အမည်ဖြင့် Myanmar Citizens Bank Ltd တွင် (၂-၂-၂၀၁၅) ရက်စွဲဖြင့် ကျပ် (၁၀၀၀.၁၀)သန်း ၊ နိုင်ငံခြားငွေ

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သူများ/ ကိုယ်စားတက်ရောက်သူများ**

ဦးခင်မောင်သွင်
လက်ထောက်အင်ဂျင်နီယာချုပ်
ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးမြတ်ထွန်းကျော်
ညွှန်ကြားရေးမှူး
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးခိုင်ထွန်း
ညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးတင်မျိုးနိုင်
လက်ထောက်ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးခင်မောင်တည်
လက်ထောက်ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

ဒေါ်ကြည်အေး
လက်ထောက်ညွှန်ကြားရေးမှူး
အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ အသင့်ဖျော်ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့်နှင့်ကွေကာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအား အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြရန်။

(ခ) မြေငှားစာချုပ်(မူကြမ်း)ပြင်ဆင်တင်ပြရန်။

(ဂ) ဈေးငွေကိစ္စ ရှင်းလင်းစွာ ပြန်လည်တင်ပြရန်။

(ဃ) သဘောထားများ စုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်ပြီးပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

**၈။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်ခင်ဥမ္မာအောင်က အမှာစာကို ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဒေါ်အေးစန္ဒာလွင်က ရှင်းလင်းတင်ပြရာတွင် Diamond Star Group Limited (မြန်မာ)၈၅%နှင့် MC Food Holdings Asia Pte. Ltd. (ဂျပန်) ၁၅%ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်ကာ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ Diamond Star Group Limited အမည်နှင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခွင့်ပြုမိန့်ရရှိခဲ့ပြီး အခွန်ကင်းလွတ်ခွင့် ခံစားပြီးဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ စက်မှုဇုန်ရှိ PAC Link Trading Limited ပိုင် မြေဧရိယာ(၂.၂၅၀) ဧကအား ငှားရမ်းဆောင်ရွက်မည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက လက်ရှိစက်ရုံမှ မည်သည့်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်နေသည်ကိုသိလိုပြီး ယခုအဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းများအား ပြည်ပသို့တင်ပို့ရာတွင် လက်ရှိကုန် အမှတ်တံဆိပ်(သို့မဟုတ်) မည်သည့်ကုန်အမှတ်တံဆိပ်အသုံးပြုမည်ကို သိလိုကြောင်း၊ ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်ကုမ္ပဏီအမည်နှင့် အသင့်ဖျော်ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့်နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့်ကုမ္ပဏီအမည်တို့မှာ ကုမ္ပဏီအမည်တူနေသဖြင့် ဖက်စပ် ဆောင်ရွက်မည့်ကုမ္ပဏီပါ ဒါရိုက်တာများ တူညီမှုရှိ-မရှိသိလိုကြောင်း၊ ကုမ္ပဏီအနေနှင့် မြေငှားစာချုပ်(မူကြမ်း)ပါ အချက်များကို ပြင်ဆင်ပေးရန်နှင့် ဖက်စပ်စာချုပ်(မူကြမ်း) တင်ပြပေးရန်လိုကြောင်း၊ လက်ရှိစက်ရုံအတွက် ဂျုံမှုန့်များ တင်သွင်းခဲ့စဉ်က မည်ကဲ့သို့လုပ်ကိုင်ဆောင်ရွက်သည်ကို သိလိုကြောင်း၊ ဈေးငွေအား ယခုဈေးယူခြင်း မပြုဘဲ နောင်နှစ်များမှဈေးယူမည်ဟုတ်-မဟုတ်သိလိုကြောင်း၊ ယခုစီမံကိန်းအတွက် အဆိုပြုချက်ပါ ပုံစံ-၁တွင် Paid up Capital နှင့် Loan ခွဲခြားဖော်ပြပေးရန်လိုကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ ဖော်ပြချက်တွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုထည့်ဝင်ငွေမှာများပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ထည့်ဝင်ငွေမှာ နည်းနေသည် ကိုတွေ့ရကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က ထုတ်လုပ်မည့်ပစ္စည်းများအား ကနဦး ၅ နှစ်တွင် ပြည်တွင်း ၇၀% နှင့် ၆ နှစ်မြောက်မှစ၍ ပြည်ပ ၃၀% ရောင်းချမည်ဟု တင်ပြထားသည်ကိုတွေ့ရကြောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် ပြောင်းလဲဆောင်ရွက်ရာ၌ ရင်းနှီးမြှုပ်နှံမှုပမာဏ ထပ်မံတိုးမြှင့်ရန်ရှိ-မရှိ သိလိုကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာ၌ ချေးငွေပါရှိခြင်းရှိ-မရှိ သိလိုပြီး ပါရှိပါက မည်သည့်နိုင်ငံမှအတိုးနှုန်းမည်မျှဖြင့် ချေးယူမည်ကိုသိလိုပြီး ချေးငွေ ပြန်လည်ပေးဆပ်မည့်အစီအစဉ် တင်ပြထားခြင်းရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဦးရဲညွန့်က ကုမ္ပဏီမှ နှစ်အလိုက် လျှပ်စစ်ဓါတ်အားလိုအပ်ချက်အား တင်ပြပေးရန်နှင့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)တွင် တစ်နှစ်ငှားရမ်းခနှုန်း မည်မျှဖြစ်သည်ကို ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေး ပြောကြားပါသည်။

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ဦးစီးအရာရှိ ဦးမြင့်ခိုင်က အဆိုပြုချက်ပါ မြေငှားစာချုပ်သက်တမ်းမှာ(၄၅)နှစ်ဟု တင်ပြထားသဖြင့် ထပ်မံတိုးမြှင့်ငှားရမ်းရန်ရှိ-မရှိ သိလိုကြောင်း ဆွေးနွေး ပြောကြားပါသည်။

ရန်ကုန်မြို့တော် လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့ လက်ထောက်အင်ဂျင်နီယာချုပ် ဦးခင်မောင်သွင်က ကုမ္ပဏီမှ နှစ်အလိုက်လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးခိုင်ထွန်းက အဆိုပြုချက်ပါ ပုံစံ-၁၊ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်သည့်အမျိုးအစား၌ စက်နှင့်စက်ပစ္စည်းစာရင်းတွင် အမေရိကန်ဒေါ်လာ ၃သန်း နီးပါးတင်ပြထားသည်ကိုတွေ့ရကြောင်း၊ ယခုတင်ပြထားသည်မှာ လက်ရှိပစ္စည်းများအား တန်ဖိုးသင့်ထားခြင်း(သို့မဟုတ်) အသစ်ထပ်မံသွင်းရန်အတွက် တင်ပြထားခြင်းဟုတ်-မဟုတ် သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးတင်မျိုးနိုင်က မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မည်သည့်ကုမ္ပဏီအမည်နှင့် ခွင့်ပြုမိန့်ရရှိခဲ့သည်ကို သိလိုပြီး ယခုမြေနှင့်စက်ရုံအား မည်သည့်ကုမ္ပဏီမှ ပိုင်ဆိုင်သည်ကို သိလိုကြောင်း၊ Luvia Limited အနေနှင့် မြေနှင့်စက်ရုံအား မည်ကဲ့သို့ ငှားရမ်းဆောင်ရွက်မည်ကိုသိလိုပြီး ကုမ္ပဏီအနေနှင့် လုပ်ငန်းများ များလာပြီဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်ရုံနှင့် အလုပ်သမား ဥပဒေစစ်ဆေးရေး ဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်ကြည်အေးက အဆိုပြုချက်တွင် ပြည်တွင်းလုပ်သား(၂၉၁)ဦး ခန့်ထားမည်ဟု တင်ပြထားသည်ကိုတွေ့ရကြောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ်သို့ ပြောင်းလဲဆောင်ရွက်ပြီး၍ လက်ရှိအလုပ်သမားများ အလုပ်ထုတ်ခြင်းခံရပါက စတင်ဝင်ရောက်ခဲ့သည့်ကာလနှင့် လုပ်အားခအား တွက်ချက်ပေးရမည်ဖြစ်ပြီး အဆိုပါလုပ်သားများအတွက် ကုမ္ပဏီမှအခွန်ပေးဆောင်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန ဦးစီးအရာရှိ ဒေါ်သီသီလှိုင်က ယခုအဆိုပြုလုပ်ငန်းအား ဌာနမှစိစစ်ဆဲဖြစ်၍ ပြီးစီးပါက အကြောင်းပြန်ကြားပေးမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည်က ကုမ္ပဏီမှ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်၍ တစ်ရက်လျှင် ထုတ်လုပ်မှု တန် ၃၀၀ အောက်ဖြစ်ပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)ရေးဆွဲရန်နှင့် တစ်ရက်လျှင်ထုတ်လုပ်မှု တန်၃၀၀နှင့်အထက်ဖြစ်ပါက ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ရေးဆွဲတင်ပြရန် လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း ဌာနခွဲမှူး ဒေါ်ဝါဝါတင်က ပြည်တွင်းဂျုံထုတ်လုပ်မှုပမာဏမှာ လုပ်ငန်းများဆောင်ရွက်ရန်အတွက် မလုံလောက်သည်မှာမှန်သော်လည်း ဂျုံစိုက်ပျိုးသည့် တောင်သူများ အတွက် ကုမ္ပဏီမှစဉ်းစားပေးပြီး နည်းပညာအကူအညီပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါက်တာခင်စောလှက ကုမ္ပဏီမှလက်ရှိတွင် FDA(Food and Drug Administration) ထောက်ခံချက်ရယူထားသည့် ပေါင်မုန့် လုပ်ငန်း၊ ကိတ်မုန့်လုပ်ငန်း၊ ခေါက်ဆွဲလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်နေကြောင်း၊ ယခုအဆိုပြုလုပ်ငန်းမှာ ဂျုံချောအဖြစ် ကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာခြင်းဖြစ်ပြီး သီးခြား ဆွေးနွေးရန်မရှိကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဒေါ်အေးစန္ဒာလွင်က လက်ရှိစက်ရုံမှ ဒိုးပုံအမှတ်တံဆိပ် ဂျုံမှုန့်များ ထုတ်လုပ်နေပြီး အရှေ့ဒဂုံမြို့နယ်တွင် စက်ရုံရှိကာ ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်နေရာနှင့် မတူ ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် ဖက်စပ်ကုမ္ပဏီနှင့် လုပ်ကိုင်ဆောင်ရွက်မည့် လုပ်ငန်းအမျိုး အစားများမတူညီဘဲ ကုမ္ပဏီနှင့် ဒါရိုက်တာအဖွဲ့ဝင်များ တူညီကြောင်း၊ ယခုအဆိုပြုလုပ်ငန်းအတွက် အသုံးပြုမည့် ကုန်အမှတ်တံဆိပ်ကို မဆုံးဖြတ်ရသေးကြောင်း၊ ဒိုးပုံအမှတ်တံဆိပ်သည် အသုံးပြုသူ အားလုံးသိရှိပြီး အမှတ်တံဆိပ်ဖြစ်၍ အဆိုပါကုန်အမှတ်တံဆိပ်ကိုဘဲ အသုံးပြုနိုင်ကြောင်း၊ ထုတ်လုပ် သည့်ပစ္စည်းများအတွက် Food Safety နှင့် Export Quality ရရှိရန် ဖက်စပ်ဆောင်ရွက်မည့် ကုမ္ပဏီမှ ကူညီဆောင်ရွက်ပေးနေကြောင်း၊ လက်ရှိစက်ရုံအတိုင်း ဖက်စပ်ဆောင်ရွက်ခြင်းဖြစ်ပြီး နောက်(၃)နှစ် ခန့်ကြာပါက စက်ပစ္စည်းထပ်မံတိုးမြှင့်ရန်ရှိကြောင်း၊ မြေငှားစာချုပ်(မူကြမ်း)ပါအချက်များကို ပြင်ဆင် ပေးမည်ဖြစ်ပြီးဖက်စပ်စာချုပ်(မူကြမ်း)တင်ပြပေးမည်ဖြစ်ကြောင်း၊ ချေးငွေအမေရိကန်ဒေါ်လာ ၇ သန်း ကို အတိုးနှုန်း အမေရိကန်ဒေါ်လာ ၅ ဒေါ်လာနှုန်းဖြင့် မိခင်ကုမ္ပဏီမှချေးယူမည်ဖြစ်ပြီး ၅ နှစ်အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပြီး ချေးငွေ ပြန်လည်ပေးဆပ်မည့်အစီအစဉ် တင်ပြပေးမည်ဖြစ်ကြောင်း၊ နှစ် အလိုက်လျှော့ပစ်စရိတ်အား လိုအပ်ချက်တင်ပြပေးမည်ဖြစ်ကြောင်း၊ မြေငှားရမ်းကာလအား အဆိုပြုချက် တွင် ၄၅ နှစ်တင်ပြထားပြီး အစိုးရမှ နှစ် ၆၀ ဂရန်ခွင့်ပြုပေးထား၍ ထပ်မံတိုးမြှင့်ရန်ရှိကြောင်း၊ အဆိုပြုချက်ပါ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်သည့် အမျိုးအစား၌ စက်နှင့်စက်ပစ္စည်းစာရင်းတွင် အမေရိကန်

ဒေါ်လာ ၃ သန်းနီးပါးမှာ လက်ရှိစက်ပစ္စည်းများအား တန်ဖိုးသင့်ထားခြင်းဖြစ်ပြီး လောလောဆယ် တင်သွင်းရန်မရှိကြောင်း၊ လက်ရှိမြေနှင့်စက်ရုံအား မြန်မာကုမ္ပဏီ Diamond Star Group Limited မှ ပိုင်ဆိုင် ကြောင်း၊ ထိုစဉ်က လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှဂျုံကုန်ကြမ်း လုံလောက်စွာမရသကဲ့သို့ အရည်အသွေးမှာမကောင်းသဖြင့် ဆက်လက်ဝယ်ယူအသုံးမပြုတော့ဘဲ ပြည်ပမှဂျုံကုန်ကြမ်းများတင်သွင်းရခြင်းဖြစ်ကြောင်း၊ အဆိုပါ ဂျုံကုန်ကြမ်းများ တင်သွင်းပြီး ဘီစကစ်မုန့်အပါအဝင် မုန့်အမျိုးမျိုး ထုတ်လုပ်ရာ၌ အသုံးပြုကြောင်း၊ ယခုအဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့်ဂျုံများကို ပြည်တွင်း၌ဦးစား ပေးရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုများလာသည့်အခါ ပြည်ပသို့တင်ပို့မည်ဖြစ်ကြောင်း၊ ဂျုံစေ့တစ်တန်လျှင် ဂျုံမှုန့် ၇၀% ခန့်ရရှိပြီး ကျန် ၃၀% အား တရိစ္ဆာန်အစာများ ထုတ်လုပ်ရာ၌သာ အသုံးပြုကြောင်း၊ မိမိတို့ကုမ္ပဏီတွင် ဂျုံစက်ရုံ(၂)ရုံရှိပြီး Greenland International Limited အနေနှင့် လုပ်ကိုင်ဆောင်ရွက်နေကြောင်း၊ ယခုလုပ်ငန်းမှာ Diamond Star Group Limited အမည်နှင့်မြန်မာနိုင်ငံသားခွင့်ပြုမိန့်ရရှိခဲ့ပြီး Lluvia Limited အမည်နှင့်ပြောင်းလဲဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဖက်စပ်ကုမ္ပဏီသို့ ပြောင်းလဲပြီးနောက် ဝန်ထမ်းများထဲမှ အလုပ်ထုတ်ခြင်းခံရပါက စတင်ဝင်ရောက် လုပ်ကိုင်သည့်နှစ် အပါအဝင် ၁၀နှစ်စာ လစာပြန်လည်တွက်ချက်ပေးမည်ဖြစ်ပြီး အဆိုပါဝန်ထမ်းများအတွက် ကုမ္ပဏီမှ အခွန်ပေးဆောင်မည်ဖြစ်ကြောင်း၊ ယခုဂျုံစိုက်ပျိုးခြင်းကို JICA အကူအညီနှင့် ဆောင်ရွက်နေပြီး ပြည်တွင်းတောင်သူများကို နည်းပညာများ ဖြန့်ဝေပေးမည်ဖြစ်ကြောင်း၊ ချေးငွေအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး ၆ နှစ်ခန့်ကြာလျှင် ချေးယူမည်ဖြစ်ပြီး Capital မရှိသေး၍ Working Capital အနေနှင့် ဖော်ပြပေးမည်ဖြစ်ကြောင်း၊ ပြင်ဆင်တင်ပြပေးရန် ရှိသည်များကို ပြန်လည်ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြရန်။

(ခ) မြေငှားစာချုပ်(မူကြမ်း)ပြင်ဆင်တင်ပြရန်။

(ဂ) ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ်တင်ပြရန်။

(ဃ) သဘောထားများ စုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

၉။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Green Land International Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်ခင်ဥမ္မာအောင်က အမှာစာကို ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဒေါ်အေးစန္ဒာလွင်က ရှင်းလင်းတင်ပြရာတွင် Green Land International Limited(မြန်မာ)၈၅% နှင့် MC Food Holding Asia Pte. Ltd. (ဂျပန်)၁၅% ထည့် ဝင်၍

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ဆုံးဖြတ်ပါသည်-<br>(၁) ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြရန်။<br>(၂) မြေငှားစာချုပ်(မူကြမ်း)ပြင်ဆင်တင်ပြရန်။<br>(၃) ချေးငွေကိစ္စ ရှင်းလင်းစွာ ပြန်လည်တင်ပြရန်။<br>(၄) သဘောထားများ စုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်ပြီးပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | |
| (စ) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-<br>(၁) ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြရန်။<br>(၂) မြေငှားစာချုပ်(မူကြမ်း)ပြင်ဆင်တင်ပြရန်။<br>(၃) ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ်တင်ပြရန်။<br>(၄) သဘောထားများ စုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်ပြီးပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ Lluvia Limited |
| (ဆ) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Green Land International Limited တည်ထောင်၍ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-<br>(၁) ဖက်စပ်စာချုပ် တင်ပြရန်။<br>(၂) မြေငှားစာချုပ် (မူကြမ်း) အား ပြန်လည်စိစစ် တင်ပြရန်။<br>(၃) ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းတန်ဖိုး ပြန်လည်စိစစ်ရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင် ပြီးပါက ကော်မရှင် အစည်းဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ Green Land International Limited |
| (ဇ) ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Belle Shin-Shin Co., Ltd. တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-<br>(၁) ထုတ်လုပ်မှုနှင့်စီးပွားရေးဆိုင်ရာတွက်ချက်မှုများ ပြင်ဆင်တင်ပြရန်။<br>(၂) တပ်ဆင်ပြီးစက်ပစ္စည်းစာရင်း၊ ပြည်တွင်းဝယ်စက်ပစ္စည်း | အဆိုပြုချက် စိစစ်ရေးအဖွဲ့ Myanmar Belle Shin-Shin Co., Ltd. |

PDF

THE REPUBLIC OF THE UNION OF MYANMAR
MYANMAR INVESTMENT COMMISSION
PROPOSAL ASSESSMENT TEAM
No.(1), Thitsar Road,
Yankin Township, Yangon

Our ref: DICA-2/FI-117/ 2015( 131 )
Date : 12th February 2015

01- 658127
01- 658136

Managing Director,
Lluvia Limited

Subject: **Application for the Proposal**

Reference to your letter dated 2nd February 2015, regarding the captioned subject, it is hereby informed that Proposal Assessment Team, at its meeting (6/2015) held on 9th February 2015, had resolved to accept the proposal of Lluvia Limited (Manufacturing & Distribution of Wheat Flour).

Yours sincerely,

12/2

for Team Leader,
(Ye Nyunt, Director)

Cc:

Company Registration Division (Foreign Company)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

အကြောင်းအရာ။ **အဆိုပြုချက်လက်ခံကြောင်းအကြောင်းကြားခြင်း**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ကုမ္ပဏီသို့ လက်ခံကြောင်း အကြောင်းကြားမည့် စာအား ပြုစုတင်ပြအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) 17.2.15 |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ ဆက်လက် တင်ပြပေးပါ ။ (ဥ.စောင်)

17.2.2015

၃။

P DF

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ ရက- ၂/န-၁၁၇/၂၀၁၅ ( ၀၇၉. )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ၊ ဦးကိုကိုကြီး(ခ)ဦးစိုးနိုင်မှ (၈၅%)နှင့် ဂျပန်နိုင်ငံ၊ MR. SOTASHI YAHAGI (MC Food Holdings Asia Pte. Ltd.) မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၁၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းများနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ရဲညွန့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

H:\MIC (tsez)\LLUVIA Limited (Wheat)\PAT\(PAT-memo).doc

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီ/ကမကထပြုသူ အမည် | - Lluvia Limited<br>- ဦးကိုကိုကြီး (ခ)ဦးစိုးနိုင် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Diamond Star Group Limited (၈၅%) (မြန်မာနိုင်ငံ)<br>- MC Food Holdings Asia Pte.Ltd. (၁၅%)(ဂျပန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂ | တည်နေရာ | - မြေကွက်အမှတ် ၅၀၊ မြေတိုင်း ရပ်ကွက် အမှတ် ၁၁၃၊ စက်မှုမြို့၊ဒဂုံမြို့သစ်အရှေ့ပိုင်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - PAC Link Trading Limited |
| | မြေအကျယ်အဝန်း | - ၂.၂၅၀ ဧက (၉၈၀၁၀ စတုရန်း ပေ) |
| ၃ | မြေနှင့် အဆောက်အဦငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD 218,484.00<br>(per square = 24 US$) |
| | မြေငှားရမ်းကာလ | - ၄၅ နှစ် |
| | လုပ်ငန်းသက်တမ်း | - ၄၅ နှစ် |
| ၄ | တည်ဆောက်ရေးကာလ | - တည်ဆောက်ပြီးဖြစ်ပါသည်။<br>(မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက်ခြင်းဖြစ်ပါသည်။) |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - USD ၁၀.၄၂၆ million |
| | ထည့်ဝင်သည့်အမျိုးအစား | USD (million)<br>ပြည်တွင်း / ပြည်ပ / စုစုပေါင်း |
| | Cash | ၂.၅၃၂ / ၁.၅၆၃ / ၄.၀၉၆ |
| | machinery, equipment | ၂.၉၉၉ / / ၂.၉၉၉ |
| | Furniture and assets | ၀.၄၂၆ / / ၀.၄၂၆ |
| | Raw material requirement | ၂.၉၀၄ / / ၂.၉၀၄ |
| | Total | ၈.၈၆၂ / ၁.၅၆၃ / ၁၀.၄၂၆ |
| ၆ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - ၂၉၁ ဦး |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၇၀ % |

| | | |
|---|---|---|
| | (၆နှစ်မြောက်) | - ပြည်ပ ၃၀ % |
| ၈ | ကုမ္ပဏီ၏ဝင်ငွေ (၆ နှစ်မြောက်)<br>ကုမ္ပဏီ၏အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၅၇.၅၀ သန်း<br>- အမေရိကန်ဒေါ်လာ ၄၈.၃၅ သန်း |
| ၉ | ကုမ္ပဏီ၏ အသားတင်အမြတ်<br>နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>(ပုံမှန်နှစ်) | - အမေရိကန်ဒေါ်လာ ၉.၁၅ သန်း |
| | ဝင်ငွေခွန်(၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၃.၀၅ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၇ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း(IRR) | - ၂၁.၈၅ % |
| ၁၀ | - လျှပ်စစ်ဓာတ်အားလိုအပ်ချက်<br>(၆ နှစ်မြောက်) | - ၂,၅၇၇,၉၈၄ units |
| ၁၁ | - နှစ်စဉ်ထုတ်လုပ်မှု (၆ နှစ်မြောက်)<br>- | (see table below) |
| ၁၂ | - အခြားတင်ပြချက် | - မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်စွဲပါစာဖြင့် Lluvia Limited အား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့် ပြုကြောင်း ကုမ္ပဏီသို့ ကြောင်းကြားစာအား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် PAC Link Trading Limited နှင့် Lluvia Limited တို့ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) Diamond Star Company Limited၊ MC Food Holdings Asia Pte. Ltd. ၊ Mitsubishi Corporation နှင့် Lluvia Limited တို့အကြား ချုပ်ဆိုမည့် Shareholders Agreement (မူကြမ်း)၊ မြေဂရန် မိတ္တူနှင့် အဆောက်အဦ ဓါတ်ပုံ တင်ပြထားပါသည်။ |

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | | ရောင်းချမည့် ဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (USD) | ပြည်ပ (USD) |
| Flour | 54,978 | 23562 | 0.55 | 0.90 |
| Bran | - | 30,294 | 0.20 | - |



salient

| | | |
|---|---|---|
| | | - ရင်းနှီးမြှုပ်နှံသူများ၏ Passport (မိတ္တူ) များနှင့် နိုင်ငံသား စိစစ်ရေးကဒ် (မိတ္တူ) တို့အား တင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် Mitsubishi Corporation အမည်ဖြင့် The Bank Tokyo-Mitsubishi UF J, Ltd. ဘဏ်တွင် ၁၃-၁-၂၀၁၅ ရက်စွဲဖြင့် ဂျပန်ယန်း ၆၉၇၉၈.၈၄ သန်းရှိကြောင်း၊ Lluvia Limited ဖြင့် Myanmar Citizens Bank Ltd. ဘဏ်တွင် ၂-၂-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၁၀၀၀ သန်းရှိကြောင်း၊ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Lluvia Limited အမည်ဖြင့် Myanma Investment and Commercial Bank ရှိ ၂၃-၇-၂၀၁၄ ရက်စွဲဖြင့် US$ ၉၉ ရှိကြောင်းတင်ပြ ထားပါသည်။<br>- Lluvia Limited အား မြန်မာကုမ္ပဏီဖြင့် မှတ်ပုံတင်ထားသော MOA, AOA နှင့် ကုမ္ပဏီ မှတ်ပုံတင်မိတ္တူ တင်ပြထားပါသည်။<br>- စင်ကာပူနိုင်ငံတွင် MC Food Holdings Asia Ptd. Ltd. အမည်ဖြင့် MOA, AOA တင်ပြထားပါသည်။<br>- နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။<br>- နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။<br>- Lluvia Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေများအတိုင်း လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက် တင်ပြထားပါသည်။<br>- အလုပ်သမားများ လုပ်ငန်းခွင် ဘေးကင်းလုံခြုံရေးအတွက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိခံဝန်ချက်၊ ရေဆိုးစွန့်ပစ်မှုအစီအစဉ်များ တင်ပြထားပါသည်။<br>- မီးဘေးအန္တရာယ် မဖြစ်ပွားရေးအတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃ | စိစစ်တွေ့ရှိချက် | - ဖက်စပ်စာချုပ် (Joint Venture Agreement) (မူကြမ်း) တင်ပြပေးရန်၊<br>- လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား နှစ်အလိုက် တွက်ချက်ပေးရန်၊<br>- မြေနှင့် အဆောက်အဦငှားရမ်း စာချုပ်(မူကြမ်း)တွင် တစ်နှစ် ငှားရမ်းခနှုန်း ဖော်ပြပေးရန်၊<br>- မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပြီးဖြစ်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် (မူရင်း)အား ပြန်လည်အပ်နှံရမည်ဖြစ်ပါသည်။<br>- ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုခွင့်ပြုမိန့်ရရှိပါက Lluvia Limited အမည်ဖြင့် မှတ်ပုံတင်ထားသော မြန်မာကုမ္ပဏီအား ရှယ်ယာလွှဲပြောင်း၍ နိုင်ငံခြားကုမ္ပဏီသို့ ပြောင်းလဲမှတ်ပုံတင်ရမည်ဖြစ်ပါသည်။ |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၁

PAT စိစစ်ရေးအဖွဲ့သို့ တင်ပြရန် အဆင့်ဆင့်စိစစ်ခြင်း

အကြောင်းအရာ။ Lluvia Limited ( [illegible] )
Diamond Star ၏ Lluvia [illegible]

ရက်စွဲ၊ ၄ - ၂ - ၁၉

| စဉ် | | အကြောင်းအရာ | ဒု/ဦးစီးမှူး | ဦး/ရှိ | လက်/ညွှန် | ဒု/ညွှန် | ညွှန်မှူး |
|---|---|---|---|---|---|---|---|
| ၁ | | မြေကိစ္စစိစစ်ရန် | | | | | |
| ၂ | ၁ | BOT(ဌာနမှ တစ်ဆင့် တင်ပြခြင်းရှိ-မရှိ) | | | | | |
| | | AUGO မှ သဘောထား မှတ်ချက်ပါ - မပါ | | | | | |
| | ၂ | ပုဂ္ဂလိကပိုင်မြေ | | | | | |
| | | မြေအထောက်အထား ပြည့်စုံခြင်းရှိ-မရှိ (မြေဂရန်) | ✓ | ✓ | | | ✓ |
| | | ပုဂ္ဂလိကမြေနှင့်အဆောက်အဦ ငှားရမ်းဆောင်ရွက်ခြင်းဖြစ်လျှင် မြေပိုင်ရှင်+ကုမ္ပဏီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း) | ✓ | ✓ | | | |
| | | စက်မှုဇုန်များတွင် ဆောင်ရွက်ပါက စက်မှုဂရန် တင်ပြရန် | ✓ | ✓ | | | ✓ |
| | | ကိုယ်ပိုင်မြေဖြစ်ပါက လန/၂၉ နှင့် ၃၀ ရှိကြောင်း/ လျှောက်ထားဆဲ အထောက်အထား၊မြေစာရင်းပုံစံ ၁၀၅ တင်ပြရန် | | | | | |
| | | လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | | | | | |
| | | အဆောက်အဦ | | | | | |
| | | အဆောက်အဦဆောက်လုပ်ပြီးဖြစ်ပါကအဆောက်အဦဓါတ်ပုံမိတ္တူ | ✓ | ✓ | | | ✓ |
| | | အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | | | | | |
| ၃ | | **ဖက်စပ် ရင်းနှီးမြှုပ်နှံမှု** | | | | | |
| | | ဌာန+ကုမ္ပဏီ ဖက်စပ်စာချုပ် (မူကြမ်း)၊ AUGO၏ သဘောထား မှတ်ချက်နှင့်အညီပြင်ဆင်ပြီး-မပြီး | | | | | |
| | | ဖွဲ့စည်းမှတ်ပုံတင်ပြီးကုမ္ပဏီဖြစ်ပါကကုမ္ပဏီမှတ်ပုံတင် အထောက်အထား (မိတ္တူ) | ✓ | ✓ | | | — |
| ၄ | | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ** | | | | | |
| | ၁ | ကုန်ကြမ်းစာရင်း (ပြည်တွင်း/ပြည်ပမှ ဝယ်ယူမှု) | ✓ | ✓ | | | ✓ |
| | ၂ | နှစ်စဉ်ထုတ်လုပ်မှု ရည်မှန်းချက် | ✓ | ✓ | | | ✓ |
| | ၃ | ရောင်းချမည့်အစီအစဉ် (ပြည်ပတင်ပို့မှု နှင့် ပြည်တွင်းရောင်းချမှု ရာခိုင်နှုန်း) | ✓ | ✓ | | | ✓ |
| | ၄ | အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | ✓ | | | ✓ |
| | ၅ | ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement)၊ IRR၊ Pay back တွက်ချက်မှုများ(ကိန်းဂဏန်း အချက်အလက်များ ၏ ငယ်စာရင်း တင်ပြရန်) | ✓ | ✓ | | | ✓ |
| | ၆ | နိုင်ငံတော်ကရရှိမည့် အကျိုးအမြတ်အခြေအနေ (ဝင်ငွေခွန်/ ကုန်သွယ်လုပ်ငန်းခွန်) | ✓ | ✓ | | | ✓ |
| | ၇ | အလုပ်အကိုင် ရရှိမှု အခြေအနေ ပြည်တွင်း/ပြည်ပဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု | ✓ | ✓ | | | ✓ |
| ၅ | | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ** | ✓ | ✓ | | | |
| | ၁ | ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း၊ | ✓ | ✓ | | | ✓ |
| | ၂ | ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ | ✓ | | | ✓ |
| ၆ | | ငွေကြေးအထောက်အထား | ✓ | ✓ | | | |
| | ၁ | ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဝယ်ယူပြီးတန်ဖိုးမှ အပ ဘဏ် အထောက်အထား တင်ပြရန်၊ | ✓ | ✓ | | | ✓ |
| | ၂ | ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏ Bank Statement တင်ပြရန်၊ | ✓ | ✓ | | | ✓ |

PDF

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၀၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ ( ၁၄၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ နည်းဥပဒေ အခန်း(၆) အပိုဒ် ၄၃ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် နိုင်ငံတော်သမ္မတရုံး၏ လမ်းညွှန်ချက်နှင့်အညီ ဝန်ကြီးချုပ် ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန်နှင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ နည်းဥပဒေ (၄၄)နှင့်အညီ အောက်ပါ သဘောထားမှတ်ချက်များအား စာလက်ခံရရှိသည့်နေ့မှ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေး နိုင်ပါရန် အဆိုပြုလွှာ (တစ်)စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/ မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင် ခြင်း ရှိ/ မရှိ။

(ဃ) လုပ်ငန်း ဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/မဟုတ်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ Lluvia Limited နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်အေးစန္ဒာလွင် (တယ်လီဖုန်း ၀၉- ၂၀၀၆၄၉၄)ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
Lluvia Limited
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ ရက- ၂ /န-၁၁၇/၂၀၁၅ ( ၁၄၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ နည်းဥပဒေအခန်း(၆) အပိုဒ် ၄၆ ပါ ပြဋ္ဌာန်းချက် နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားကို တောင်းခံ ရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထား မှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးပါရန်နှင့် Lluvia Limited နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်အေးစန္ဒာလွင် (တယ်လီဖုန်း ၀၉- ၂၀၀၆၄၉၄) ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
Lluvia Limited
ရုံးလက်ခံ/မျှောစာတွဲ

forest

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☏၀၁-၆၅၈၁၂၇ | စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ ( ၁၄၅ )

🖷 ၀၁-၆၅၈၁၃၆ | ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ကျန်းမာရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ နည်းဥပဒေအခန်း(၆) အပိုဒ် ၄၆ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးပါရန် နှင့် Lluvia Limited နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်အေးစန္ဒာလွင် (တယ်လီဖုန်း ၀၉- ၂၀၀၆၄၉၄) ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

H:\MIC (tsez)\LLUVIA Limited (Wheat)\Agreement\health).docxhealth)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
☏ ၀၁-၆၅၈၀၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ ( ၁၄၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ နည်းဥပဒေ အခန်း(၆) အပိုဒ် ၄၆ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍အောက်ပါအချက်များအပေါ် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ခုနစ်ရက်** အတွင်း ပြန်ကြားပေးနိုင်ပါရန် အဆိုပြုလွှာ တစ်စုံအား ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ထုတ်လုပ်မည့် ပစ္စည်း တစ်မျိုးချင်း၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ-မရှိ။

(ခ) ဈေးနှုန်းတင်ပြထားမှုသည် ဆီလျော်မှု ရှိ - မရှိ။

(ဂ) နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား / လူအင်အား အချိုးအစားညီမျှမှု ရှိ - မရှိ။

၄။ Lluvia Limited နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်အေးစန္ဒာလွင် (တယ်လီဖုန်း ၀၉-၂၀၀၆၄၉၄)ဖြစ်ပါသည်။

ဉက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း
Lluvia Limited
ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

Myanmar Investment Commission

☎ ၀၁-၆၅၈၁၅၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ရက- ၂/န-၁၁၇/၂၀၁၅ ( ၁၉၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ
(၂) ဤကော်မရှင်၏ ၂၃-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ (၁၄၄)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းကို ရည်ညွှန်းချက် ၂ ပါစာဖြင့် သဘောထား မှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ယနေ့တိုင် သဘောထားပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထား မှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ ၀၁-၆၅၇၈၁၂ | စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ ( ၁၉၅ )
🖷 ၀၁-၆၅၈၁၃၄ | ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ကျန်းမာရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ
(၂) ဤကော်မရှင်၏ ၂၃-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ (၁၄၅)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းကို ရည်ညွှန်းချက် ၂ ပါစာဖြင့် သဘောထား မှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် ကျန်းမာရေးဝန်ကြီးဌာနမှ ယနေ့တိုင် သဘောထားပြန်ကြားလာခြင်း မရှိသေး ပါသဖြင့် ကော်မရှင်အစည်းအဝေးသို့တင်ပြနိုင်ရန်အတွက် သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

Lluvia Limited

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၃၄၇

🖷 ၀၁-၆၅၈၁၃၄၆

စာအမှတ်၊ရက- ၂/န-၁၁၇/၂၀၁၅ ( ၁၄၃ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ

(၂) ဤကော်မရှင်၏ ၂၃-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ (၁၄၃)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းကို ရည်ညွှန်းချက် ၂ ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ယနေ့တိုင် သဘောထားပြန်ကြား လာခြင်း မရှိသေးပါသဖြင့် ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထား မှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ၊

Lluvia Limited

ရုံးလက်ခံ/မျှောစာတွဲ

D:\LLUVIA Limited (Wheat)\Reminder\Reminder to Ygn of Lluvia.doc

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☏ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ရက- ၂/န-၁၁၇/၂၀၁၅ ( ၁၉၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ
(၂) ဤကော်မရှင်၏ ၂၃-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၁၇/၂၀၁၅ (၁၄၆)

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းကို ရည်ညွှန်းချက် ၂ ပါစာဖြင့် သဘောထား မှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် စက်မှုဝန်ကြီးဌာနမှ ယနေ့တိုင် သဘောထားပြန်ကြား လာခြင်းမရှိသေးပါ သဖြင့် ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထား မှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
📠 ၀၁-၆၅၈၁၃၄

စာအမှတ်၊ ရက- ၂/န-၁၁၇/၂၀၁၅ ( ၂၉၁ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်

သို့

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Lluvia Limited ၏ (၂-၂-၂၀၁၅) ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံ Diamond Star Co., Ltd. မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte. Ltd. မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက် အမှတ် ၁၁၃၊ မြေကွက်အမှတ် ၅၀ ရှိ မြေ ၂.၂၅၀ ဧက (၉၈၀၀၀ စတုရန်းပေ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို ၂၀၁၅ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထားမှတ်ချက်တောင်းခံရန်နှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ အတည်ပြုသည့် ပမာဏကို ချေးယူခွင့်ပြုရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ကုမ္ပဏီသည် MC Food Holdings Asia Pte. Limited ထံမှ ချေးငွေအဖြစ် အမေရိကန်ဒေါ်လာ ၇.၀၀ သန်းအား ချေးယူမည့်အစီအစဉ် တင်ပြထားခြင်းအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် လိုအပ်ပါသဖြင့် သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးနိုင်ပါရန် Credit Line Agreement နှင့် Shareholders' Loan Agreement တစ်စုံစီအား ပူးတွဲပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

၄။ Lluvia Limited နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်အေးစန္ဒာလွင် (တယ်လီဖုန်း ၀၉-၂၀၀၆၄၉၄) ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ ဘဏ္ဍာရေးဝန်ကြီးဌာန

Lluvia Limited

ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီး ဌာနတို့သို့ သဘောထား တောင်းခံမည့် စာကြမ်း (၄)စောင်အား ပြုစုတင်ပြ အပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|
| (လက်မှတ်) | (လက်မှတ်) 18.2.2015 |
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ အမှာစာ ၄ စောင်တင်ပြအပ်ပါသည်။

(လက်မှတ်)
19.2.2015
([illegible])

ညွှန်မှူး

၃။ [illegible]

(လက်မှတ်)

[illegible] (ရင်း-ဦး-၃)

၄။ [illegible]

[illegible]

(လက်မှတ်)
[illegible]

H:\MIC (tsez)\LLUVIA Limited (Wheat)\Agreement\NS.docx

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဧပြီလ ၂၃ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထား တောင်းခံမည့် **စာကြမ်း**အား ပြုစုတင်ပြအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ(၁)** | **စိစစ်သူ(၂)** |
| --- | --- | --- |
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) | (စန္ဒာအောင်) |
| ဌာနခွဲစာရေး | ဦးစီးအရာရှိ | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။

23. 4. 2015

JS

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၉ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီး ဌာနတို့သို့ သဘောထား တောင်းခံခဲ့ရာ ယနေ့တိုင် သဘောထား ပြန်ကြား လာခြင်း မရှိသေးပါသဖြင့် ထပ်မံတောင်းခံမည့် **စာကြမ်း** အား ပြုစုတင်ပြအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|
| (ချမ်းမြေ့အောင်) | 9.3.015 (ဆုလတ်ဖြူ) |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ Reminder ၄ · စောင် တင် ပြ ပါ သည် ·

9.3.2015

**ညွှန်ကြားရေးမှူး**

၃· တင်ပြ မှာ ပါ ၁၀၃၅ ·

D:\LLUVIA Limited (Wheat)\Reminder\NS.docx

p 36

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**၂၀၁၅ ခုနှစ်၊ မတ်လ ၂၀ ရက်၊ ၁၀:၀၀ နာရီတွင် ရုံးအမှတ် (၆)၊ စွမ်းအင်ဝန်ကြီးဌာန၊ နေပြည်တော်၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၅ /၂၀၁၅ ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း**

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

| | |
|---|---|
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဌေးအောင်<br>ပြည်ထောင်စုဝန်ကြီး<br>ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဦးဝင်းထွန်း<br>ပြည်ထောင်စုဝန်ကြီး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါက်တာထွန်းရှင်<br>ပြည်ထောင်စုရှေ့နေချုပ်<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး | အဖွဲ့ဝင် |
| ဦးညွန့်တင်<br>သံအမတ်ကြီး (အငြိမ်းစား) | အဖွဲ့ဝင် |
| ဦးဝင်းခိုင်<br>ဥက္ကဋ္ဌ<br>မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | အဖွဲ့ဝင် |
| ဒေါ်ခိုင်ခိုင်နွယ်<br>စီးပွားရေးလုပ်ငန်းရှင် | အဖွဲ့ဝင် |
| ဦးအောင်နိုင်ဦး<br>ညွှန်ကြားရေးမှူးချုပ်<br>ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန | အတွင်းရေးမှူး |

(Environmental Management Plan- EMP) နှင့် မီးဘေး ကာကွယ်ရေး အစီအစဉ်များ ဆောင်ရွက်ထားရှိခြင်းများနှင့် လုပ်ငန်းအနေဖြင့် မြန်မာနိုင်ငံသားများ အလုပ်အကိုင် အခွင့်အလန်း ရရှိမည်ဖြစ်ကြောင်း ရှင်းလင်း တင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့်နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထားမှတ်ချက်တောင်းခံရန်နှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ အတည်ပြုသည့် ပမာဏကို ချေးယူခွင့်ပြုရန်၊ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

၂၁။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လျက်ရှိသော Lluvia Limited မှ ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အဖြစ် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ကော်မရှင်တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက အမှာစာပါအကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကို ကုမ္ပဏီမှ ဆွေးနွေးတင်ပြပေးရန် ဖိတ်ခေါ်ပါသည်။

Lluvia Limited ၏ မန်နေဂျင်းဒါရိုက်တာ ဦးကိုကိုကြီးက ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်တွင် ဂျုံကြိတ်ခွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်၊ သက်တမ်းကာလမှာ (၅၀)နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂)နှစ်ဖြစ်ကြောင်း၊ ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များနှင့် အစုရှယ်ယာဝင်များစာရင်း၊ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၁၀.၄၂၆) သန်း ဖြစ်ကြောင်း၊ ပြည်တွင်း ဝန်ထမ်း(၂၉၁) ဦး ခန့်ထားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားမှ တင်သွင်းမည့် စက် ပစ္စည်းများ စာရင်း၊ အရင်းကြေကာလမှာ ၇ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၄.၁% ဖြစ်ကြောင်း၊ Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၁% ကို သုံးစွဲမည်ဖြစ်ပါကြောင်း ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) နှင့် မီးဘေး ကာကွယ်ရေး အစီအစဉ်များ ဆောင်ရွက်ထားရှိခြင်းများနှင့် လုပ်ငန်းအနေဖြင့် မြန်မာနိုင်ငံသားများ အလုပ်အကိုင် အခွင့်အလန်း ရရှိမည်ဖြစ်ကြောင်း ရှင်းလင်း တင်ပြ ပါသည်။

ကော်မရှင်အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထား မှတ်ချက်တောင်းခံရန်နှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ အတည်ပြုသည့် ပမာဏကို ချေးယူ ခွင့်ပြုရန်၊ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

| | | |
|---|---|---|
| | Lease/sale and maintain power supply solutions" လုပ်ငန်းအားယခင်ရရှိထားသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်တွင် လုပ်ငန်းအမျိုးအစား၌ ထပ်မံဖြည့်စွက်၍ တိုးချဲ့ဆောင်ရွက်ခွင့်ပြုရန်နှင့် ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ခွင့်အတွက် ပြန်လည်တင်ပြရန်။ | |
| (ထ) | ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Shinsung Tongsang International Company Limited. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း (စက်ရုံ အမှတ် -၇) ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး |
| (ဒ) | ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့်နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထား မှတ်ချက်တောင်းခံရန်နှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ အတည်ပြုသည့် ပမာဏကို ချေးယူခွင့်ပြုရန်၊ ဆောင်ရွက်ခွင့် ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန |
| (ဓ) | ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ ဂျုံကြိတ်ခွဲ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထား မှတ်ချက်တောင်းခံရန်နှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ အတည်ပြုသည့် ပမာဏကို ချေးယူ ခွင့်ပြုရန်၊ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန |
| (န) | ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Green Land International Limited တည်ထောင်၍ ဂျုံကြိတ်ခွဲထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထားမှတ်ချက် တောင်းခံရန်နှင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ အတည်ပြုသည့် ပမာဏကို ချေးယူခွင့်ပြုရန်၊ ဆောင်ရွက်ခွင့်ပြုရန်နှင့်ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန |

# Lluvia Ltd

## (Manufacturing and Distribution of Wheat Flour

20 March 2015

# Proposed JV structure

Step 1.




Step 2.



# MC's Value Add (Wheat Flour)

(1) Partnership with NITTO FUJI FLOUR MILLING CO.,LTD. (MC Affiliate) will bring in advanced technology and know how in wheat flour milling and future applications

- Upgrading Quality Control
- Cost reduction techniques
- Blending and Pre-mix know how

(2) Utilization of MC's global network

- New export opportunities
- Bringing in new partners and customers in food processing and food service to Myanmar

*"Enhancing wheat flour milling capabilities to international standard"*
*Example 1: Food Safety Control*




*"Expanding application to meet future demand for high quality foods"*
*Example 2: Various Pre-mix Products and mixing techniques for wide application and usage*

- *Bread mix*
- *Cake and Snack mix*
- *Fried Chicken mix*



